# အိန္ဒိယပြည် ၌ ဟောပြောသော



# တရားတော်များ

၄၆၂၈

## ဝန်ကြီးချုပ်ဦးနု

အိန္ဒိယပြည်၌ ဟောပြောသော

# ဗုဒ္ဓတရားတော်များ

ဦးသိန်း

' အံတော်ယံနုံးအဖွဲ့

သီရိမင်္ဂလာ ကမ္ဘာ့စာပေတိုက်

ရန်ကုန်

# နိဒါန်း

နမောတဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

အိန္ဒိယပြည် နယူးဒေလီမြို့ အမျိုးသား ရုပမေဒ ဓာတ်ခွဲ စိပ်ရာဌာန တက္ကသိုလ်ကြီးတွင် ၁၉၆၂-ခုနှစ်၊ ဇန္နဝါရီလ ၁၂-ရက်နေ့၊ ၁၃-ရက်နေ့များတွင် ဟောပြော ပြသသော မင်္ဂလာဆိုဒါ ဘာလဲ တရားတော်ကြီးနှင့် မေတ္တာဆိုဒါဘာလဲ တရားတော်များ ပဋိစ္စသမုပ္ပါဒ် တရားတော်များကို အထူး သဖြင့် ဟောပြောပြသရာ အထူးတလီ မှတ်သားရာ မှတ်သား ကြောင်း-ရှင်တော်ဗုဒ္ဓ ဂေါတမ၏ တရားကောင်း တရားမြတ် များ ဖြစ်ပါ၍၊ ယခုစာ ထုတ်ဝေ ဖြန့်ချိသူသည် အထူးဘဲ နှစ်သက်မြတ်နိုးပါသဖြင့် (ဝါ) အထူးဘဲ နှစ်သက်မြတ်နိုး ရကား- ဤကဲ့သို့ပင်လျှင် မြန်မြည်တိုင်းဘွား အမျိုးသား အမျိုးသမီးတို့ သိရှိနားလည် လွယ်လွယ်ကလေးနှင့် ပစ္စိမစေနေ ဗုဒ္ဓစကားတော်မြတ်များကို သိရှိနားလည်ပြီးလျှင် ပြည်နိဗ္ဗာန် ကမ်းတဘက်သို့ လွယ်လွယ်ကလေးနှင့် လှမ်းတက်ကူးမြောက် ကြပါစေခြင်း အကျိုးငှာ ပြည်ထောင်စု မြန်မာနိုင်ငံတော် ဝန်ကြီးချုပ် ဟောပြောလုတ်ဘော် တရားတော်ကို ပုံနှိပ်ဖြန့်ချိ ပါရန် ဝန်ကြီးချုပ်ထံ တောင်းပန်၍ အခွင့်အမိန့် ရသည့် အားလျော်စွာ ဤမည်သော တရားတော်မြတ်ကြီးကို (ဝါ) သဘာဝ တရားဟောင်းကြီးကို ဝန်ကြီးချုပ် ဟောပြောပြသ သည့်အတိုင်း အင်္ဂလိပ်ဘာသာ- မြန်မာဘာသာ နှစ်ဘာသာ တို့ဖြင့် စက်တင်ပုံနှိပ်လိုက်ရပါတော့သတည်း။

ဝန်ကြီးချုပ်ဦးနု ဟောပြောသော ဗုဒ္ဓစာပေ ဖြန့်ချိရာဌာန

ဖုံး (၅၀၀၀၂)
မှာကြားရန်
ဦးသိန်း အံတော်ထိန်း
သိရိမင်္ဂလာ-ကမ္ဘာ့ဧစေတီတော် ရန်ကုန်။

# ပဋိစ္စသမုပ္ပါဒ်တရားတော်

၁၉၆၂-ခု ဇန်နဝါရီလ ၁၁ ရက်နေ့က အိန္ဒိယပြည်နယူးဒေလီမြို့၌ နိုင်ငံတော်ဝန်ကြီးချုပ် ဦးနုဟောပြောသော ပရိယတ္တိနှင့် ပဋိပတ္တိအကြောင်း ဟောပြောချက်မှာ အောက်ပါအတိုင်းဖြစ်ကြောင်း။

အမျိုးသား ရူပဗေဒ ဓာတ်ခွဲဗိတ်ရာ ဌာနကြီးရဲ့ အဖွဲ့ဝင် အပေါင်းတို့ခင်ဗျား။

ခင်ဗျားတို့ဟာ သိပ္ပံပညာရှင်တွေ အနေနဲ့ ခင်ဗျားတို့ရဲ့ ဝတ္တရားဟာတခြားမဟုတ်၊ ခင်ဗျားတို့ကိုယ်တိုင် သဘာဝတရားသစ်တွေကို ရှာဖွေဘို့နဲ့ တခြားသိပ္ပံပညာရှင်တွေ ရှာဖွေတွေ့ရှိသွားတဲ့သဘာဝတရားဟောင်းတွေကို စမ်းသပ်စစ်ဆေးကြည့်ရှုဘို့ဝတ္တရားဘဲဖြစ်တယ်လို့ ကျွန်တော်နားလည်ထားပါတယ်။ အဲဒါကြောင့် ဒီကနေ့ခင်ဗျားတို့နဲ့ အခုလို တွေ့ရတဲ့ အခါမှာ နှစ်ပေါင်း ၂၅၀၀-ကျော်လောက်က ခင်ဗျားတို့ရဲ့အိန္ဒိယနိုင်ငံတော်ကြီးမှာ ရှာဖွေ တွေ့ရှိခဲ့တဲ့ သဘာဝ တရားဟောင်းကြီးကို ခင်ဗျားတို့ ရှေ့မှာ ကျွန်တော်ချပြလိုပါတယ်။

ဒီသဘာဝ တရားဟောင်းကြီးဟာ တခြား မဟုတ်ပါဘူး။ လူ့နတ်ဗြဟ္မာ အစရှိတဲ့ ၃၁-ဘုံမှာကျင်လည် နေရတဲ့သတ္တဝါတွေအားလုံး ဒုက္ခ အပေါင်းက လွတ်ကင်းစေနိုင်တဲ့ သဘာဝ တရားကြီးဘဲဖြစ်ပါတယ်။ ဒီသဘာဝ တရားကြီးကို တွေ့ရှိတဲ့ ပုဂ္ဂိုလ်ကြီးဟာလဲ တခြားမဟုတ်ပါဘူး၊ အိန္ဒိယပြည်ကြီးရဲ့ သား

ကောင်း ရတနာ တဆူဖြစ်တဲ့ ဂေါတမမြတ်စွာဘုရား သခင်ဘဲ ဖြစ်ပါတယ်။

သိပ္ပံပညာရှင်များခင်ဗျား။

ဒီတရားကြီးကို ဂေါတမ မြတ်စွာဘုရားသခင်ဟာ အကျဉ်းချုပ်ပြီး အခုလို ဟောထားခဲ့ပါတယ်။ ရှေးဦးစွာ ကျွန်တော် ပါဠိလိုရွတ်ပြပါရစေ၊ သည်းခံပြီး နားထောင်ကြပါ။ ပါဠိလို ရွတ်ပြီးမှ ကျွန်တော်အဓိပ္ပါယ်ကို ရှင်းပြပါ့မယ်။

## ပဋိစ္စသမုပ္ပါဒ်ပါဠိ

အဝိဇ္ဇာပစ္စယာသင်္ခါရာ၊ သင်္ခါရပစ္စယာဝိညာဏံ၊ဝိညာဏ ပစ္စယာနာမရူပံ၊နာမရူပ ပစ္စယာသဠာယတနံ၊သဠာယတန ပစ္စယာ ဖဿော၊ ဖဿပစ္စယာဝေဒနာ၊ ဝေဒနာပစ္စယာတဏှာ၊ တဏှာပစ္စယာ ဥပါဒါနံ၊ ဥပါဒါန ပစ္စယာ ဘဝေါ၊ ဘဝပစ္စယာ ဇာတိ၊ ဇာတိပစ္စယာ ဇရာ-မရဏ-သောက-ပရိဒေဝ-ဒုက္ခ ဒေါမနဿုပါယာသာသမ္ဘဝန္တိ၊ ဧဝမေတဿ ကေဝလဿ ဒုက္ခက္ခန္ဓဿ သမုဒယော ဟောတိ။

အဝိဇ္ဇာယတွေဝ အသေသဝိရာဂနိရောဓာ သင်္ခါရနိရောဓော၊ သင်္ခါရနိရောဓာ ဝိညာဏနိရောဓော၊ ဝိညာဏနိရောဓာ နာမရူပနိရောဓော၊ နာမရူပနိရောဓာ သဠာယတနနိရောဓော၊ သဠာယတန နိရောဓာ ဖဿနိရောဓော၊ဖဿနိရောဓာ ဝေဒနာ နိရောဓော ၊ဝေဒနာနိရောဓာ တဏှာနိရောဓော၊တဏှာနိရောဓာ ဥပါဒါန နိရောဓော၊ ဥပါဒါန နိရောဓာ ဘဝနိရောဓော၊ ဘဝနိရောဓာ ဇာတိနိရောဓော၊ ဇာတိနိရောဓာ ဇရာ မရဏ သောက ပရိဒေဝ ဒုက္ခ ဒေါမနဿုပါယာသာ နိရုဇ္ဈန္တိ ဧဝမေတဿ ကေဝလဿ ဒုက္ခက္ခန္ဓဿ နိရောဓောဟောတိ၊

## အမှန်တရားကို မမြင်ကြ

သိပ္ပံပညာရှင်များခင်ဗျား၊

ယခုကျွန်တော်ရွတ်ခဲ့တဲ့ ပါဠိတော်ကို ကျွန်တော်ရှင်းပြပါ ရစေ၊ လောဘ၊ ဒေါသ၊ မောဟဆိုတဲ့ ကိလေသာပိတ်ဖုံးထား တဲ့အတွက် အမှန်တရားကို သတ္တဝါတွေ မသိမြင်ကြပါ။ အမှန် တရားတွေကို မသိမြင်တဲ့အတွက် သတ္တဝါတွေဟာ ကောင်းစား ချမ်းသာချင်လို့ အဆက်မပြတ် ပြုပြင် အားထုတ်နေကြပါတယ်။ ဒီလိုပြုပြင် အားထုတ် နေကြတဲ့အတွက် ဝိညာဉ်သစ်တွေ အဆက်မပြတ် ဖြစ်ပေါ်နေပါတယ်။ ဒီဝိညာဉ်သစ်တွေ အဆက် မပြတ် ဖြစ်ပေါ်နေတဲ့အတွက် ရုပ်နဲ့နာမ်တွေ အဆက်မပြတ် ဖြစ်ပေါ်နေပါတယ်။ ဒီလိုရုပ်နဲ့နာမ်တွေအဆက်မပြတ်ဖြစ်ပေါ် နေတဲ့ အတွက် အာယတနခြောက်ပါး ခေါ်တဲ့ မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ်ဆိုတာတွေ အဆက်မပြတ် ဖြစ်ပေါ်နေပါတယ်။ ဒီလို မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ်ဆိုတာတွေ အဆက် မပြတ်ဖြစ်ပေါ်နေတဲ့ အတွက် တလောကလုံးမှာ ရှိနေတဲ့ သက်ရှိ သတ္တဝါတွေ သက်မဲ့ အရာဝတ္ထုတွေနဲ့ ထိတွေ့မှုတွေ အဆက် မပြတ် ဖြစ်ပေါ်နေပါတယ်၊ ဒီလိုထိတွေ့မှုတွေ အဆက်မပြတ်ဖြစ် ပေါ်နေတဲ့ အတွက်ကောင်းတယ်၊ မကောင်းဘူးဆိုတဲ့ ခံစားမှု တွေ အဆက်မပြတ်ဖြစ်ပေါ်နေပါတယ်၊ ဒီလိုခံစားမှုတွေ အဆက် မပြတ်ဖြစ်ပေါ်နေတဲ့ အတွက် တောင့်တမှုတွေ အဆက်မပြတ် ဖြစ်ပေါ်နေပါတယ်။ ဒီလိုတောင့်တမှုတွေ အဆက်မပြတ် ဖြစ် ပေါ်နေတဲ့အတွက် စွဲလမ်းမှုတွေ အဆက်မပြတ် ဖြစ်ပေါ်နေ ပါတယ်၊ ဒီလိုစွဲလမ်းမှုတွေ အဆက်မပြတ် ဖြစ်ပေါ်နေတဲ့ အ တွက် မြို့ရွာတွေ၊ နယ်တွေ၊ လူတွေ ရဲ့ တိရစ္ဆာန် ငှက်ရွာ၊

အသူရကာယ်တွေ ဖြစ်စေနိုင်တဲ့ ဘဝတွေ အဆက် မပြတ် ဖြစ်လာရပါတယ်။ ဒီလိုဗြဟ္မာတွေ၊ နတ်တွေ၊ လူတွေ၊ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ်တွေဖြစ်စေနိုင်တဲ့ ဘဝတွေ အဆက်မပြတ် ဖြစ်နေတဲ့ အတွက် ဗြဟ္မာတွေ၊ နတ်တွေ၊ လူတွေ၊ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ် တွေ အဆက် မပြတ် ဖြစ်နေရပါတယ်၊ ဒီလိုဗြဟ္မာတွေ၊ နတ်တွေ၊ လူတွေ၊ ငရဲ၊ တိရစ္ဆာန်တွေ၊ ပြိတ္တာတွေ၊ အသူရကာယ်တွေ အဆက် မပြတ် ဖြစ်နေရတဲ့ အတွက် အိုရခြင်း ဆင်းရဲတွေ၊ သေရခြင်းဆင်းရဲ၊ စိုးရိမ်ကြောင့်ကြရခြင်း ဆင်းရဲတွေ၊ ငိုကြွေးမြည်တမ်းရခြင်းဆင်းရဲတွေ၊ ကိုယ်မှာခံစားရတဲ့ ဆင်းရဲတွေ၊ စိတ်မှာ ခံစားရတဲ့ ဆင်းရဲတွေ၊ စိတ်ထဲမှာမချိမဆံ့ ပူပန်ရခြင်းဆင်းရဲတွေ၊ အဆက်မပြတ် ဖြစ်ပေါ်နေရတယ်။

လောဘ၊ ဒေါသ၊ မောဟ ဆိုတဲ့ ကိလေသာတွေချုပ်ငြိမ်းပြီး အမှန် တရားတွေ မြင်တာနဲ့ တပြိုင်နက် သင်္ခါရ တွေဟာ ကောင်းစား ချမ်းသာချင်လို့ ပြုပြင်အားထုတ်နေရတဲ့ အခြေက လွတ်မြောက်သွားပြီး၊ ဒီလိုလွတ်မြောက်သွားတဲ့အတွက် ဝိညာဉ်သစ်တွေ မဖြစ်တော့ဘူး။ ဒီလိုဝိညာဉ်သစ်တွေ မဖြစ်တော့တဲ့ အတွက် ရုပ်သစ်နာမ်သစ်တွေ မဖြစ်တော့ဘူး။ ဒီလိုရုပ်သစ်နာမ်သစ်တွေ မဖြစ်တော့တဲ့အတွက် အာယတန ခြောက်ပါးခေါ်တဲ့ မျက်စိ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ်ဆိုတာတွေမဖြစ်တော့ဘူး ဒီလိုမျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်စိတ် ဆိုတာတွေ မဖြစ်တော့တဲ့ အတွက် သက်ရှိ သင်္ခါရတွေ သက်မဲ့ အရာဝတ္ထု တွေနဲ့ ထိတွေ့ မှုတွေ ဆိုတာ မဖြစ်တော့ဘူး၊ ဒီလို ထိတွေ့မှုတွေဆိုတာ မဖြစ်တော့တဲ့ အတွက် ခံစားမှုဆိုတာမဖြစ်

တော့ဘူး။ ဒီလိုခံစားမှုတွေဆိုတာမဖြစ်တော့တဲ့ အတွက်တောင့်တမှုဆိုတာမဖြစ်တော့ဘူး၊ ဒီလိုတောင့်တမှုဆိုတာ မဖြစ်တော့တဲ့ အတွက် စွဲလမ်းမှုဆိုတာ မဖြစ်တော့ဘူး။ ဒီစွဲလမ်းမှုဆိုတာမဖြစ်တော့တဲ့ အတွက် ဗြဟ္မာတွေ၊ နတ်တွေ၊ လူတွေ၊ ငရဲ-တိရစ္ဆာန်-ပြိတ္တာ-အသူရကာယ်တွေ ဖြစ်စေနိုင်တဲ့ ဘဝတွေမဖြစ်တော့ဘူး။ ဒီဘဝတွေ မဖြစ်တော့တဲ့အတွက် ဗြဟ္မာတွေနတ်တွေ၊လူတွေ၊ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ အသူရကာယ်တွေမဖြစ်ရတော့ဘူး၊ ဒီလိုဗြဟ္မာတွေ၊ နတ်တွေ၊ လူတွေ၊ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊အသူရကာယ်တွေမဖြစ်ရတော့တဲ့အတွက် အိုရခြင်းဆင်းရဲတွေ၊ သေရခြင်းဆင်းရဲတွေ၊စိုးရိမ်ကြောင့်ကြရခြင်း ဆင်းရဲတွေငိုကြွေးမြည်တမ်းရခြင်း ဆင်းရဲတွေ ကိုယ်မှာ ခံစားရတဲ့ဆင်းရဲတွေ၊ စိတ်မှာခံစားရတဲ့ဆင်းရဲတွေ၊ စိတ်ထဲမှာမချိမဆံ့ပူပန်ရခြင်း ဆင်းရဲတွေမဖြစ်ပေါ်နိုင်တော့ဘူး။

သိပ္ပံပညာရှင်များခင်ဗျား။

ကျွန်တော်ရဲ့ ရှင်းလင်းချက်ကိုကြားနာပြီးတဲ့နောက် သတ္တဝါတွေ အခု ကျွန်တော်ပြောခဲ့တဲ့ ဒုက္ခပင်လယ်ကြောမှာ အဆက်မပြတ် မျောနေရတာဟာတခြားကြောင့်မဟုတ်။ လောဘ၊ ဒေါသ၊ မောဟတွေ ပိတ်ဖုံးနေတဲ့အတွက် အမှန်ကိုမမြင်နိုင်တာကြောင့်ဘဲဖြစ်တယ်ဆိုတာကို ကောင်းစွာ သဘောပေါက်နိုင်ကြပါပြီ။ နောက်ပြီးတော့လဲ ဒီလောဘ၊ ဒေါသ၊မောဟတွေ ချုပ်ငြိမ်းပြီး အမြင်မှန်ကို မြင်နိုင်ရင် ဒီဒုက္ခတွေကလွတ်မြောက်မယ်ဆိုတာကိုလဲ ကောင်းကောင်း သဘောပေါက်နိုင်ကြပါပြီ။

အဲဒီတော့ သိပ္ပံပညာရှင်များ ခင်ဗျား။

အမြင်မှန်ရအောင်ဒီလောဘ၊ ဒေါသ၊ မောဟတွေကို ဘယ်လို အမြစ်ဖြတ်ကြမလဲ။

**ကိလေသာ ဖြတ်နည်း အမျိုးမျိုး**

သိပ္ပံပညာရှင်များခင်ဗျား။

လောဘ၊ ဒေါသ၊ မောဟ ဆိုတဲ့ ကိလေသာတွေကို အမြစ်ဖြတ်ဘို့အတွက် ပုဂ္ဂိုလ်အမျိုးမျိုးဟာ နည်းအမျိုးမျိုးကို ပေးခဲ့ကြပါတယ်။

တချို့က ကာမဂုဏ်တွေကို ဝပြီး အီသွားအောင် ခံစားလိုက်ရင် ဒီကိလေသာတွေကုန်ခန်းသွားမယ်ဆိုတဲ့ နည်းတွေကို ရှေးကလဲ ပေးခဲ့ကြဘူးပါတယ်။ အခုလဲ ပေးလျက်ပင် ရှိပါသေးတယ်။

တချို့ကလဲ ကိုယ့်ကိုယ်ကို ပင်ပန်းအောင်လုပ်ထားရင် ကိလေသာတွေ အမြစ်ပြတ်မယ်ဆိုပြီး ရေငုတ် မီးလှုံ တုံးခုန်ဇယ်ခတ်ဆိုတဲ့ နည်းတွေကို ရှေးကလဲပေးခဲ့ကြဘူးပါတယ်၊ အခုလဲ ပေးလျက်ပင်ရှိကြပါသေးတယ်။

အချို့ကလဲ ကိုယ့်ကိုယ်ကို နာကျင်အောင် လုပ်ထားရင် ဒီကိလေသာတွေ အမြစ်ပြတ်မယ်ဆိုပြီး ဆူးပေါ် အအိပ်ခိုင်းခြင်း မိမိကိုယ်ကို နာကျင်အောင်ရိုက်နှက်ခြင်း အစာငတ်ခံခြင်း ဆိုတဲ့နည်းတွေကို ရှေးကလဲပေးခဲ့ဘူးပါတယ်။

အခုလဲပေးလျက်ပင်ရှိကြပါသေးတယ်။

သိပ္ပံပညာရှင် အပေါင်းတို့ခင်ဗျား-

ဂေါတမ မြတ်စွာဘုရားသခင်ဟာ ဒီနည်းတွေကို လက်မခံပါဘူး အကုန်လုံး ပယ်ပါတယ်၊ ဂေါတမမြတ်စွာဘုရားသခင် အလိုတော်အရ လောဘ၊ ဒေါသ၊ မောဟဆိုတဲ့ ကိလေသာတွေကို အမြစ်ဖြတ်တဲ့ နည်းဟာ တလောကလုံးမှာ တနည်းထည်းရှိပါတယ်။အဲဒီနည်းကတော့ တခြားမဟုတ်ပါဘူး သတိအစဉ်ရှိနေအောင် လုပ်တဲ့နည်းဘဲဖြစ်ပါတယ်။ အဲဒီတော့ သတိအစဉ်ရှိအောင် လုပ်တဲ့နည်းကို ကျွန်တော် ပြောပြချင်ပါတယ်။ ဒါပေမဲ့ ဒီသတိ အစဉ်ရှိအောင် လုပ်တဲ့နည်းကို မပြောခင်ဘာဖြစ်လို့ ဒီသတိအစဉ်ရှိအောင် လုပ်ရတယ်ဆိုတဲ့ အချက်ကို အကျဉ်းချုပ်ပြီး ကျွန်တော်ပြောပြလိုပါတယ်။

## စိတ်နှင့်အာရုံ

သိပ္ပံပညာရှင်များခင်ဗျား။

ကျွန်တော်တို့ရဲ့စိတ်ဟာ မျက်စိအားဖြင့်ရင်း၊ နားအားဖြင့်ရင်း၊ နှာခေါင်းအားဖြင့်ရင်း၊ လျှာအားဖြင့်ရင်း၊ ကိုယ်ကာယအားဖြင့်ရင်း၊ ပတ်ဝန်းကျင်မှာရှိနေတဲ့ အာရုံခေါ်တဲ့ သက်ရှိသက်မဲ့တွေထဲက တခုမဟုတ်တခုနဲ့အမြဲတမ်း ထိတွေ့နေတယ်။ ကျွန်တော်တို့စိတ်ဟာ အာရုံတခုခုနဲ့ကင်းလွတ်ပြီး ဘယ်အခါမှ မနေနိုင်ပါဘူး။ အဲဒီလိုစိတ်နဲ့ အာရုံနဲ့ ထိတွေ့တဲ့အခါ ကြိုက်တဲ့ အာရုံဆိုရင် လောဘဖြစ်တယ်၊ မကြိုက်တဲ့ အာရုံဆိုရင် ဒေါသဖြစ်တယ်၊ အကြမ်းအားဖြင့် ပြောရမယ်ဆိုရင် အဲဒီလို စိတ်နဲ့ အာရုံနဲ့ဟာ နေ့စဉ်နဲ့အမျှ နာရီနဲ့အမျှ၊ မိနစ်နဲ့အမျှ၊ စက္ကန့်နဲ့အမျှ ထိတွေ့နေတဲ့ အတွက် ကျွန်တော်တို့ရဲ့ စိတ်တွေဟာ လောဘမဟုတ်ရင် ဒေါသဆိုတဲ့ အညစ်အကြေးတွေနဲ့

အစဉ်မပြတ် ရစ်ပတ်ထားတာကို ခံနေရတယ်။ အဲဒီလိုရစ်ပတ်ထားတာကို ခံနေရလို့ အမှန်ကို ကျွန်တော်တို့ မမြင်ရဘူး။ ပုဂ္ဂိုလ်တဦးဟာ တိမ်သလာကြောင့်မျက်စိမမြင်နိုင် သလိုပါဘဲ။ အဲဒီလို လောဘနဲ့ ဒေါသ ဆိုတဲ့ အညစ် အကြေးတွေက အစဉ်အမြဲ ရစ်ပတ်ထားတဲ့အတွက် အမှန်တရားကို မမြင်ရဘူး။ ဒီလို အမှန်တရားကိုမမြင်ရတဲ့အတွက် ငါ၊ ငါ၊ ငါလို့ ဖြစ်နေတာပါဘဲ။

အဲဒီတော့ အမှန်တရားကို မြင်နိုင်ဘို့အတွက် စိတ်ကိုလောဘဒေါသဆိုတဲ့ အညစ်အကြေးတွေရဲ့ ရစ်ပတ်မှု ကင်းလွတ်အောင်လုပ်ရမယ်၊ဘယ်လိုလုပ်ရမလဲ။

စိတ်နဲ့ အာရုံ တခုခုနဲ့ ထိတွေ့တိုင်း လောဘ မဟုတ်ရင် ဒေါသဖြစ်တယ်လို့ ခုတင်ကကျွန်တော်ပြောခဲ့ပြီးပါပြီ၊ စိတ်ဆိုတာကလဲအာရုံတခုခုနဲ့ မထိတွေ့ဘဲ မနေနိုင်၊အစဉ်ထိတွေ့နေရမယ်လို့လဲ ကျွန်တော်ပြောခဲ့ပြီးပြီ၊အဲဒီတော့ စိတ်နဲ့ အာရုံ ထိတွေ့တဲ့အခါလောဘနဲ့ ဒေါသမဖြစ်အောင် ဘယ်လိုလုပ်မလဲ၊ မခက်ပါဘူးလွယ်ပါတယ်။

စိတ်ဟာတကြိမ်မှာတစိတ်ထဲဖြစ်နိုင်တယ်။ အဲဒ်တော့စိတ်နဲ့ အာရုံနဲ့ထိတွေ့တာနဲ့တပြိုင်နက်၊ ထိတွေ့နေတယ်ဆိုတာကိုချက်ခြင်းသတိပြုလိုက်ပါ။စိတ်ဟာတကြိမ်မှာတစိတ်ထဲသာဖြစ်နိုင်တဲ့အတွက် သတိဆိုတဲ့ စိတ်ဖြစ်ပေါ်နေတော့ အတောအတွင်း လောဘစိတ်တွေ၊ ဒေါသစိတ်တွေဘယ်နည်းနှင့်မှ မဖြစ်နိုင်ဘူး၊ သိပ္ပံပညာရှင်များ စမ်းကြည့်ပါလား၊ ကိုယ်နဲ့ မသင့်မြတ်တဲ့ လူတယောက်ရှိတယ် ဆိုပါတော့။ ဒီလူကို မြင်တိုင်း မြင်တိုင်း စဉ်းစားမိတိုင်း စဉ်းစားမိတိုင်း၊လူကြီးမင်းများမှာ ဒေါသစိတ်

တွေ့ပေါ်ဘူးမှာပါဘဲ။ ဒါပေမဲ့ ဒီလူကိုမြင်တဲ့အခါမြင်တယ်၊ မြင်တယ်လို့ စိတ်ထဲကဆိုပြီး သူ့ကိုမြင်နေတဲ့ဟာကို သတိရနေပါ။ ဒီလိုသတိရနေတဲ့ အတောအတွင်း ဒေါသစိတ်တွေဟာဘယ်နည်းနဲ့မှမပေါ်တော့ဘူး။ တခါတရံ သိပ္ပံပညာရှင်များ ဒေါသဖြစ်ဘူးပါလိမ့်မယ်။ အဲဒီလို ဒေါသဖြစ်နေတဲ့အခါ ဒေါသဖြစ်နေတယ်ဆိုတာကို သတိရအောင်လုပ်ကြည့်စမ်းပါ။ ဒီလိုသတိရတာနဲ့ တပြိုင်နက် သိပ္ပံပညာရှင်များရဲ့ ဒေါသဟာ ပျောက်သွားဘာကိုတွေ့ရပါလိမ့်မယ်။

အဲဒီလို စိတ်နဲ့ အာရုံနဲ့ ထိတွေ့တိုင်းထိတွေ့တိုင်းလောဘနဲ့ ဒေါသဆိုတဲ့ အညစ်အကြေးတွေမပေါ်ပေါက်နိုင်အောင် စိတ်နဲ့ အာရုံနဲ့ ထိတွေ့တိုင်းထိတွေ့တိုင်းသတိအစဉ်အမြဲရှိနေပါစေ။

## သတိအစဉ်ရှိအောင် ဘယ်လိုလုပ်မလဲ

သိပ္ပံပညာရှင်များခင်များ။

သတိအစဉ်ရှိဘို့ ဘာဖြစ်လို့ လုပ်ပေးရတယ် ဆိုတာကို အကျဉ်းချုပ်ပြောပြီးတဲ့ နောက် သတိအစဉ်ရှိနေအောင် ဘယ်လိုလုပ်ရတယ် ဆိုဘာကို တရားတော်အတိုင်း မြန်တော်အကျဉ်းချုပ်ပြီးပြောပြလိုပါတယ်။ အဲဒီနည်းကတော့အောက်ပါအတိုင်းဖြစ်ပါတယ်။

တရားအားထုတ်လိုတဲ့ ပုဂ္ဂိုလ်ဟာ ကုလားထိုင်ပေါ်မှာဖြစ်စေ၊ ကြမ်းပြင်ပေါ်မှာဖြစ်စေထိုင်ပါ။ အဲဒီလိုထိုင်နေတဲ့အခါမှာ ထိုင်နေတယ်လို့ စိတ်ထဲက သတိရနေပါစေ။ ဒါပေမဲ့ ထိုင်တာ တခုထဲမှတ်နေရင် သူကလွယ်လွန်း အားကြီးနေတယ်။ လွယ်လွန်းတော့ ကြောင့်ကြမစိုက်ရလို့ သတိဟာ လွင့်သွားနိုင်တယ်။ အဲ

ဒါကြောင့် ထိုင်နေတာကို မှတ်ပြီးရင် ကိုယ့်အသား တနေရာနဲ့ ကြမ်းပြင် သို့မဟုတ် ကုလားထိုင်နဲ့ ထိနေတာ ကလေးကိုလဲ မှတ်ပါ၊ အဲဒီတော့မှတ်ရတာဟာထိုင်တယ်တခုထဲ မဟုတ်တော့ဘဲ ထိုင်တယ်၊ ထိတယ် ဖြစ်လာ လိမ့်မယ်။ ထိုင်တယ်လို့ကိုယ်ထဲမှာ မှတ်လိုက်ပြီးတော့ ထိတယ်လို့ အဲဒီအထိ ကလေးကို သွားမှတ်လိုက်၊ ပြီးတော့ထိုင်တယ်လို့ ပြန်မှတ်လိုက်၊ ပြီးတော့ ထိတယ်လို့ ပြန်မှတ်လိုက်။ ဟောဒါကလေးနှစ်ခုကိုဘဲ အသွားအပြန် မှတ်နေရမယ်၊ ထိုင်တယ်ထိတယ်၊ ထိုင်တယ်ထိတယ်၊ ထိုင်တယ်ထိတယ်လို့မှတ်နေရမယ်၊ အဲဒီလိုမှတ်ရတာဟာ အချို့မှာလွယ်ပေမဲ့အချို့မှာတော့ခက်တတ်တယ်အဲဒီလိုထိုင်တယ်ထိတယ်လို့အမှတ်ရခက်ရင် နောက်တနည်း ရှိသေးတယ်။

## ထွက်သက်ဝင်သက်

အဲဒါကတော့တခြားဟာမဟုတ်ဘူး၊ထွက်သက် ဝင်သက်တို့ကိုရှုရှိုက်တဲ့အခါယောဂီရဲ့ဝမ်းဗိုက်ဟာဖေါင်းလိုက်ပိန်လိုက်ဖြစ်နေတာကိုတွေ့ရမယ်။ဖေါင်းရင် ဖေါင်းတယ်လို့ မှတ်ရမယ် ပိန်ရင် ပိန်တယ်လို့မှတ်ရမယ်၊ တရားအားထုတ်စ ယောဂီများအတွက် ဒီဖေါင်းတယ် ပိန်တယ်ကိုမှတ်ရတာက ပိုပြီးလွယ်တတ်တယ်။ ယောဂီများဟာ မိမိတို့အတွက် အမှတ်ရအလွယ်ဆုံးကို ပဌမအဆင့်အနေနဲ့ ရွေးပြီးမှတ်ရမယ်။

ဒီဖေါင်းတာပိန်တာကို ဘယ်လိုမှတ်ရမယ်ဆိုတာ အသေးစိတ်ထပ်ပြီး ပြောချင်ပါသေးတယ်။ ယောဂီတဦးဟာ မိမိရဲ့စိတ်ကို ဗိုက်ပေါ်မှာ စိုက်ထားရမယ်။ အသက် ရှုသွင်းလိုက်တဲ့အခါ ဗိုက်ဟာ ဖေါင်းတက်လာတာကို တွေ့ရတယ်၊အသက်ရှုထုတ်လိုက်တဲ့အခါကျတော့ ပိန်ကျသွားတာကို တွေ့လိမ့်မယ်။

ဖေါင်းတက်လာတာကလေးကို ဖေါင်းတယ်လို့မှတ်ရမယ်။ ပိန်ကျသွားတာကလေးကိုပိန်တယ်လို့ မှတ်ရမယ်၊စိတ်နဲ့ စိုက်ကြည့်ရုံနဲ့ မထင်ရှားသေးရင် ဗိုက်မှာ လက်နဲ့ ထိထား နိုင်တယ်၊ အသက်ရှူတာကိုတော့ မပြင်းရဘူး။ နှေးအောင်လဲ အသက်အောင့်မထားရဘူး၊ မြန်အောင်လည်း အားမထုတ်ရဘူး။ ပြင်းပြင်းကြီးလည်းမရှူရဘူး။အသက်ရှူကို ပြင်းလိုက်ရင်မောသွားလိမ့်မယ်၊ဒါကြောင့်ပကတိရှူမြဲအတိုင်းသာမှန်မှန်ရှူရမယ်၊ အသက်ရှူမှားသွားရင် မှန်မှန်ကလေးပြန်ထားရမယ်၊ ဒီလိုမှန်မှန်ကလေးရှူနေရင် ဖေါင်းတက်လာတာကို ဖေါင်းတယ်လို့မှတ်၊ ပိန်ကျသွားတာကို ပိန်တယ်လို့မှတ်ပါ။

ဖေါင်းတယ်၊ ပိန်တယ်၊ ဒီလို အဆိုကလေးတွေ ကတော့ စိတ်ထဲတွင် ဆိုဖို့ပါဘဲ၊ ပစပ်ကတော့ ဆိုနေဖို့မလိုပါဘူး၊ စိတ်ထဲတွင်ဘဲ ဖေါင်းတယ် ပိန်တယ်လို့ ဒီလို စိတ်ဆိုကလေးနဲ့ ဖေါင်းတိုင်း ပိန်တိုင်း လိုက်ပြီးမှတ်နေရမယ်။

ဝိပဿနာမှာ သတိရှိနေဖို့က အရေးအကြီးဆုံး ဖြစ်နေတယ် ဒါကြောင့် ဖေါင်းတယ်လို့မှတ်တဲ့အခါမှာ ဖေါင်းစကနေပြီး ဖေါင်းတာ ဆုံးသည့်တိုင်အောင် ဖေါင်းတက်လာတာကို သတိတချက်ကလေးမှ မလစ်စေဘဲ မှတ်သွားဘို့လိုတယ်။ ဒီလိုပိန်ကျသွားပြန်ရင်လဲ ပိန်စကစပြီးပိန်ကျသွားတာ အဆုံးအထိ ပိန်ကျသွားတာကို သတိကချက်ကလေးမှ မလစ်စေဘဲ မှတ်သွားဘို့လိုတယ်။

ဒီလိုမှတ်နေရင်း စိတ်က တခြားထွက်ထွက် သွားတာလဲရှိလိမ့်မယ်၊ သမာဓိအားမကောင်းသေးရင် စိတ်ဆိုတာကထားရာမှာ နေတာမဟုတ်ဘူး၊ ဖေါင်းတာပိန်တာကို မှတ်နေရင်း

စိတ်က အဲဒီလိုထွက်သွားရင် ထွက်သွားတဲ့စိတ်လဲလိုက်ပြီးမှတ်ရမယ်။ အဲဒီလို စိတ်ထွက်သွားတယ် သွားတယ်လို့မှတ်၊ အဲဒီလိုတချက်နှစ်ချက်လောက် မှတ်လိုက်ရင် ဒီစိတ်ဟာ အပြင်ဘက်ပုံ့လွင့်တာ ရပ်သွားလိမ့်မယ်၊ အဲဒီအခါ ဖေါင်းတာပိန်တာကို ပြန်မှတ်ရမယ်။

အဲဒီလိုမှတ်နေရင်း စိတ်ဟာ ဟိုနေရာရောက် ရောက်သွားရင် ရောက်တယ်ရောက်တယ်လို့မှတ်၊ အဲဒီလိုမှတ်ပြီး ဖေါင်းတာပိန်တာကိုဘဲပြန်မှတ်ပါ။

စိတ်ကူးထဲမှာ လူတယောက်ယောက်နဲ့ တွေ့ရင်လဲ တွေ့တယ် တွေ့တယ်တွေ့တယ်လို့မှတ်၊ ပြီးရင်ဖေါင်းတာပိန်တာကိုပြန်မှတ်ပါ။ တခါတရံစိတ်ကူးထဲမှာလူတယောက်ယောက်နဲ့ တွေ့ပြီးစကားပြောနေတာမျိုးလဲ ရှိတတ်တယ်၊ အဲဒီလိုစိတ်ကူးထဲမှာ စကားပြောနေမှ သတိရလာတာမျိုးလဲ ရှိလိမ့်မယ်၊ အဲဒီအခါပြောနေတယ် ပြောနေတယ်လို့မှတ်ပါ၊ လိုရင်းကတော့ ဘာဘဲဖြစ်ဖြစ် စိတ်ကူး ကြံစည်မှုတွေ ဖြစ်တိုင်းဖြစ်တိုင်း မှတ်ရုံပါဘဲ၊ မှတ်ပုံကတော့ စိတ်ကူးနေရင် သတိရတာနဲ့ တပြိုင်နက် စိတ်ကူးတယ် စိတ်ကူးတယ်လို့မှတ်၊ စိတ်ထဲမှာပျော်နေရင်လဲသတိရတာနဲ့ တပြိုင်နက်ပျော်နေတယ်၊ ပျော်နေတယ်လို့မှတ်ပါ၊ ပျင်းနေတာကို တွေ့လဲပျင်းနေတယ်၊ ပျင်းနေတယ်လို့မှတ်၊ စိတ်ပျက်နေရင်လဲ စိတ်ပျက်နေတယ်လို့မှတ်။

အဲဒီလို စိတ်ကူးကလေးတွေကို ဖြစ်တိုင်းဖြစ်တိုင်း ရှုမှတ်နေရင် စိတ်နဲ့ပတ်သက်ပြီး အထင်လွဲမှုတွေ မိမိကိုယ်နဲ့ ပတ်သက်ပြီး အထင်လွဲမှုတွေဟာ တစတစနဲ့ ပပျောက် သွားလိမ့်

မယ်၊ စိတ်ညစ်တာ စိတ်ပျက်တာ စိတ်သောက ရောက်နေတာ တွေရှိရင်လဲ ပပျောက်သွားလိမ့်မယ်။

အဲဒီစိတ်ကလေးတွေကို ဖြစ်ပေါ်တိုင်း ဖြစ်ပေါ်တိုင်း မှတ်နိုင်အောင် ကြိုးစားပါ၊ အဲဒီလိုမှတ်ပြီးတာနဲ့ ဖေါင်းတာ ပိန်တာကို ပြန်ပြီးမှတ်ပါ။

အဲဒီလို မှတ်နေရင်း မှတ်နေရင်း ခေါင်းငုံ့ရင် ငုံ့တယ်၊ ငုံ့တယ်လို့မှတ်၊ ခေါင်းမော့ရင် မော့တယ်၊ မော့တယ်လို့မှတ်၊ တောင်ကြည့်မြောက်ကြည့် ကြည့်မိရင် ကြည့်တယ် ကြည့်တယ် လို့မှတ်၊ပြီးရင်ဖေါင်းတာပိန်တာကိုပြန်မှတ်ပါ။

ထိုင်နေတာကျတော့ ကိုယ်ထဲမှာညောင်းတာ ပူတာတွေက ပေါ်လာလိမ့်အုံးမယ်၊ အဲဒါတွေကိုလဲ လိုက်ပြီး မှတ်ရလိမ့်အုံးမယ်၊ ညောင်းတာကလေးကို သေသေချာချာ သိအောင် စိတ်နဲ့ စိုက်ပြီးညောင်းတယ်၊ ညောင်းတယ်လို့ မှတ်နေရမယ်၊ ပူရင်လဲ၊ ပူတယ်၊ ပူတယ်လို့မှတ်နေရမယ်၊ နာရင်လဲ နာတယ် နာတယ် လို့ မှတ်နေရမယ်၊ ကျင်ရင်လည်း ကျင်တယ်ကျင်တယ်လို့မှတ် နေရမယ်၊မောရင်လည်းမောတယ်မောတယ်လို့ မှတ်နေရမယ်၊ အဲဒီလိုညောင်းလို့ ပူလို့ နေရာပြောင်ချင်ရင်လည်း ပြောင်ချင်တယ် ပြောင်ချင်တယ်လို့မှတ်ရမယ်၊ အဲဒီလို အဆင့်ဆင့် မှတ်ပြီးဖေါင်း တာ ပိန်တာကိုဘဲပြန်မှတ်ရမယ်။

ဒီလို မှတ်နေရင်း တနေရာက ယားလာပြန်ရင် အဲဒါကို လည်း မှတ်ရမှာဘဲ၊ ယားတဲ့နေရာကို စိုက်ပြီးယားတယ် ယား တယ် ယားတယ်လို့ သေသေချာချာမှတ်၊ သူလည်းအခံရခက် တဲ့ ဝေဒနာဘဲ၊ အယားပျောက်ချင်တဲ့ စိတ်ကလေး ပေါ်လာ

ရင် အဲဒီစိတ်ကို ဖျောက်ချင်တယ် ဖျောက်ချင်တယ်လို့ မှတ်၊ ဒါပေမဲ့ ချက်ခြင်းအယားကို မဖျောက်ပါနဲ့ ဖျောက်ချင်တယ် ဖျောက်ချင်တယ်လို့မှတ်ပြီး ယားတယ် ယားတယ်လို့ဘဲ ပြန်မှတ်နေရဦးမယ်။ ဒီလိုပေပြီးမှတ်နေရင် ယားတာကတော့ ပျောက်သွားတာဘဲ များပါတယ်၊ ပျောက်သွား ရင်လည်း ပေါင်းတယ် ပိန်တယ်ကိုပြန်မှတ်သွားရုံပါဘဲ၊ အယားမပျောက်တော့လည်း အယားဖျောက်ရတာပေါ့၊ ဒါပေမဲ့ ဖျောက်ချင်တဲ့ စိတ် ကလေးက စပြီး မှတ်သွားရမယ်၊ ဖျောက်ချင်တယ် ဖျောက် ချင် တယ် မှတ်၊ လက် ကြွ လာ ရင် ကြွတယ် ကြွတယ်မှတ်၊ ရွေ့ရင် ရွေ့တယ် ရွေ့တယ်မှတ်၊ ယားတဲ့နေရာကို ထိတော့ ထိတယ်၊ ထိတယ် ထိတယ်လို့ မှတ်၊ အယားဖျောက်နေတဲ့အခါ ဆွဲတိုင်း တွန်းတိုင်း ဖျောက်တယ် ဖျောက်တယ်၊ ကုတ်တယ် ကုတ်တယ်မှတ်၊ လက်ပြန်ချတော့ ချတယ် ချတယ်မှတ်၊ အဲဒီလိုအချမှာ လက်နဲ့ တခုခုနဲ့ထိသွားရင် ထိတယ်၊ ထိတယ်လို့မှတ်၊ ပြီးတော့မှပေါင်းတာပိန်တာကို ပြန်မှတ်သွားရမယ်။

ထိုင်ရာက ထအုံးမယ်လို့ကြံရင်လဲ အဲဒီစိတ်ကို ထချင်တယ်၊ ထချင်တယ်လို့မှတ်၊ ထဘို့အတွက် လက်တွေခြေတွေကို ပြင်တဲ့အခါ ကြွတယ် ရွေ့တယ်၊ ဆန့်တယ် ထိတယ်၊ ထောက်တယ် စသည်ဖြင့် အစဉ်အတိုင်းမှတ်ပြီးပြုပြင်ရမယ်။ ကိုယ်ကရှေ့ကို ယိမ်းလာတဲ့အခါ ယိမ်းတယ် ယိမ်းတယ်မှတ်၊ ထလိုက်တဲ့အခါ ကိုယ်ကြီးက ပေါ့ပေါ့ပြီးကြွကြွတက်လာတာရှိတယ်၊ အဲဒါကို ရှုးစိုက်ပြီးတော့ ထတယ်ထတယ်လို့ မှတ်ရမယ်။

တရား အားထုတ်နေတဲ့ ယောဂီတွေဟာ အားအင် ရှိပေမဲ့ အားမရှိတဲ့ လူမမာလို ကျင့်ရမယ်၊ ထရင်လဲ ဖြေးဖြေးထ၊ ထိုင်

ရင်လဲဖြေးဖြေးထိုင်၊ လက်ခြေအစရှိတဲ့ အင်္ဂါအစိတ်အပိုင်းတွေ လှုပ်ရင်လဲ လှုပ်တိုင်းလှုပ်တိုင်း သတိလွတ်သွားတယ် ဆိုတာမျိုး မရှိရလေအောင် ဖြေးဖြေးခြင်းလှုပ်ရမယ်။

အဲဒီလိုထပြီး လမ်းလျှောက်တဲ့အခါ ခြေလှမ်းတွေကို မှတ်ရမယ်၊ ညာဘက်က လှမ်းတဲ့အခါညာလှမ်းတယ်လို့မှတ်၊ ဘယ်ဘက်က လှမ်းတဲ့အခါ ဘယ်လှမ်းတယ်လို့မှတ် ခြေထောက်ကြွသည်ကစပြီး ခြေထောက်ချသည်အထိ ရွေ့ရွေ့ပြီး သွားတာကလေးကို တချက်မှ သတိမလစ်စေဘဲ၊ အစဉ်အတိုင်း မှတ်သွားရမယ်၊ ညာလှမ်းတယ်၊ ဘယ်လှမ်းတယ်၊ ညာလှမ်းတယ်၊ ဘယ်လှမ်းတယ်၊ ညာလှမ်းတယ်၊ ဘယ်လှမ်းတယ်၊ အဲဒီလို တလှမ်းတခါမှတ်သွားရမယ်၊ အဲဒီလိုမှတ်တာက မြန်မြန် လျှောက်တဲ့အခါ မှတ်တာဘဲဖြစ်တယ်။

ဖြေးဖြေးသွားနေတဲ့အခါတော့ခြေတလှမ်းကိုသုံးပိုင်းပိုင်းပြီး မှတ်ရမယ်၊ ခြေထောက်ကြွတက်လာတာက တပိုင်း၊ လှမ်းလိုက်တာကတပိုင်း၊ နင်းချလိုက်တာက တပိုင်း၊ အဲဒီသုံးပိုင်းထဲမှာကြွတာနဲ့ချတာကစပြီး မှတ်ရမယ်၊ လှမ်းတာကိုအစမှာမမှတ်သေးဘဲချန်ထားရမယ်၊ ကြွတာနဲ့တပြိုင်နက် ကြွတယ်လို့ မှတ်လိုက်ရမယ်၊ ချတာနဲ့တပြိုင်နက်ချတယ်လို့မှတ်လိုက်ရမယ်၊ ကြွတယ် ချတယ် ခြေတလှမ်းပြီးသွားပြီ၊ အဲဒီဘက် ချတယ်လို့ မှတ်နေတုန်း ဟိုတဘက်ကကြွဖို့တတ်တယ်၊အဲဒီလိုကြွမလာစေရဘူး။ ကြွလာလို့ရှိရင်လဲကြွစကနေပြီး သေသေချာချာ မှတ်နိုင်အောင် စူးစိုက်ပြီး မှတ်ရမယ်၊ ကြွတယ် ချတယ်၊ကြွတယ်ချတယ်၊ဒီလိုခြေတလှမ်းမှာ နှစ်ချက်ချနှစ်ချက်မှတ်ပြီးသွားရမယ်၊အစတော့နည်းနည်းခက်မယ်၊ နှစ်ရက်လောက်ကြာတော့ ဒီလိုမှတ်ရတာ လွယ်

လာလိမ့်မယ်။ အဲဒီလို လှုပ်လာတဲ့အခါ ကြွတယ် လှမ်းတယ် ချတယ်ကြွတယ်၊လှမ်းတယ်၊ချတယ်အဲဒီလိုသုံးချက်အထိ တိုးပြီး မှတ်ရမယ်။

ယခုပြောခဲ့တဲ့နည်းအတိုင်း ထိုင်နေတဲ့အခါဖြစ်စေ၊ ရပ်နေတဲ့အခါဖြစ်စေ၊လှဲနေတဲ့အခါဖြစ်စေ၊လမ်းလျှောက်နေတဲ့ အခါဖြစ်စေ၊ရေချိုးနေတဲ့အခါဖြစ်စေ၊ထမင်းစားနေတဲ့အခါဖြစ်စေ။ ကျင်ကြီးကျင်ငယ်သွားနေတဲ့အခါဖြစ်စေ၊ ယောဂီတဦးဟာ မိမိရဲ့ကိုယ်အင်္ဂါအစိတ်အပိုင်းလှုပ်ရှားသမျှ စိတ်လှုပ်ရှားသမျှ တချက်ကလေးမှ သတိမလစ်ရအောင် သတိနှင့်အစဉ်ကပ်ပြီး မှတ်နေရမယ်။

## အိပ်ပျော်ချိန်မှာ မသိ

ညဉ့်နက်အချိန် ရောက်တဲ့အခါ အိပ်ရာပေါ်မှာ လှဲနေရင်း ဖေါင်းတယ်၊ပိန်တယ် ဖေါင်းတယ်၊ပိန်တယ်ကိုမှတ်နေပါ၊ ဒီလိုမှတ်နေရင်း အိပ်ပျော်သွားပါလိမ့်မယ်။ အိပ်ပျော်တဲ့ အချိန်မှာတော့ ဘာမှမသိလို့ မမှတ်ရဘူး။ ဒါကြောင့် အိပ်ပျော်နေတဲ့ အချိန်ကတော့ ယောဂီပုဂ္ဂိုလ်မှာ နားရတဲ့အချိန်ဘဲ။

သို့ပေမဲ့ တကယ်တမ်း တရားအားထုတ်တဲ့ ယောဂီဟာ တနေ့ကို လေးနာရီထက်တော့ပိုပြီး အိပ်ပျော် မနေစေရဘူး။ တနေ့ကို လေးနာရီလောက်အိပ်ရင် လုံလောက်ပါပြီ။

သမာဓိအား အင်မတန်ကောင်းလာတဲ့ယောဂီများမှာ လေးငါး ခြောက်ရက် ခုနစ်ရက်အထိတမှေးမှမအိပ်တာကိုကျွန်တော်ကိုယ်တိုင်တွေ့ရဘူးတယ်။ ကျန်းမာရေးလဲ မထိခိုက်ဘူး။ လန်းလန်းဆန်းဆန်းဖြစ်နေတာဘဲ။

အဲဒီအိပ်ပြီး နိုးလာတဲ့အချိန်ကစပြီး စိတ်လှုပ်ရှားမှု မှန်သမျှ ကိုယ်လှုပ်ရှားမှုမှန်သမျှကို ရှေးနည်းအတိုင်းဆက်ပြီးမှတ်ရမယ်။

ဒီလိုအစဉ်မပြတ်မှတ်နေတာဟာ ဘာကြောင့်ဆိုတာကိုကျွန်တော် အပေါ်နားမှာပြောခဲ့ပြီးပါပြီ။ ဒါပေမဲ့ ကြွရောက်လာကြတဲ့ ပုဂ္ဂိုလ်များကို သတိယပ်ပြီး ပေးတဲ့အနေနဲ့ ဒီလို မှတ်နေရတာ ဘာကြောင့်ဆိုတာကိုဟကြိမ်ထပ်ပြီးပြောပါရစေ။

မျက်စိတမှိတ် လျှပ်တပြက် အတွင်း စိတ်ဟာ အကြိမ်ပေါင်းများစွာဖြစ်နိုင်ပါတယ်။ဘယ်လောက် များတယ်ဆိုတာကိုတော့ ကိုယ်တိုင်အားထုတ်တဲ့အခါ ကိုယ်တိုင်တွေ့ရပါလိမ့်မယ်။

အဲဒီလိုစိတ်ဖြစ်တိုင်း ဖြစ်တိုင်းအာရုံ တခုခုနဲ့ ထိပြီးလောဘစိတ်နဲ့ ဒေါသ စိတ်တွေဟာ ဖြစ်နေပါတယ်။ အဲဒါကြောင့် စိတ်ရဲ့အလွန်လျင်မြန်မှုကြောင့် အမြင်မှန်ရအောင် အားထုတ်နေတဲ့ ယောဂီတဦးဟာ တခါတလေသူကိုယ်တိုင်ကသူရဲ့သတိမြဲနေတယ်လို့ ထင်နေပေမဲ့ သူရဲ့စိတ်တွေဟာ သတိ လွတ်ပြီးထွက်သွားနိုင်ပါတယ်။ အဲဒီလို ထွက်သွားတာဟာ တစက္ကန့်မျှလောက်သာဆိုပေမဲ့ လောဘစိတ်နဲ့ ဒေါသစိတ်တွေဟာ အဲဒီယောဂီ မသိလိုက်ရဘဲနဲ့ ဒီတစက္ကန့်အတွင်းမှာ အကြိမ်ပေါင်းအများကြီး ဖြစ်ပျက်သွားနိုင်တယ်၊ အဲဒီလောဘစိတ်နဲ့ ဒေါသစိတ်တို့ဟာ တစွန်းတစလောက်ရှိနေသေးရင် အမြင်မှန်ကိုဘယ်နည်းနဲ့မှမရနိုင်ပါဘူး။ အဲဒါကြောင့်ယောဂီဟာသတိကို အလစ်မပေးဘဲ မြင်သမျှ ကြားသမျှ ရှူရှိုက်သမျှ အရသာခံသမျှ ထိတွေ့သမျှအာရုံတွေအပေါ်မှာ သတိကိုကပ်ပြီးထားနိုင်အောင်အထူးကြိုးစားရပါလိမ့်မယ်။

လက်ဦးအစလောက်မှာ ခက်ခဲသလိုလိုရှိလိမ့်မယ်၊ ဒါပေမဲ့

တနင်္ဂနွေ တပတ်လောက်ရှိတဲ့အခါကျရင် တသက်လုံး ရင်နာဖြင်းမရှိဘဲ လှုပ်ရှားနေခဲ့တဲ့ စိတ်ဟာ တဖြည်းဖြည်း တည်ငြိမ်လာတာကို ယောဂီကိုယ်တိုင် တွေ့ရပါလိမ့်မယ်။

ဒီလို သတိရှိပဲ့အတွက် စိတ်ဟာ လောဘတွေ၊ ဒေါသတွေ ကင်းလွတ်ပြီး စင်ကြယ်လာပါလိမ့်မယ်။ တရားတော်ဟာသိပ္ပံပညာလိုဘဲ အင်မတန် တိကျပါတယ် သိပ္ပံပညာအရ ဟိုက်ဒရိုဂျင် ၂ဆနဲ့ အောက်ဆီဂျင် ၁ဆတို့ပေါင်းလိုက်ရင် အမေရိကန်ဘဲပေါင်းပေါင်း၊ အင်္ဂလိပ်ဘဲပေါင်းပေါင်း၊ အာဖရိကဘဲပေါင်းပေါင်း၊ ဘယ်နိုင်ငံမှာဘဲပေါင်းပေါင်း ဘယ်အချိန်မှာဘဲပေါင်းပေါင်း ရေဖြစ်ပါတယ်။ အဲဒီလိုဘဲတရားတော်ဟာလဲ အင်မတန်တိကျပါတယ်။ အမေရိကန်ဘဲလုပ်လုပ် အင်္ဂလိပ်ဘဲလုပ်လုပ် အာဖရိကဘဲလုပ်လုပ် ဘယ်မှာဘဲလုပ်လုပ် ဘယ်အချိန်မှာဘဲလုပ်လုပ် စိတ်နဲ့အာရုံနဲ့ ထိတိုင်း သတိအစဉ် ရှိနေအောင် လုပ်ရင် ဒီစိတ်ဟာ စင်ကြယ်ရမယ်။ စိတ်စင်ကြယ်မှုပိုပြီးအားကောင်းလာတာနဲ့အမျှ စိတ်ဟာတဆင့်ပြီးတဆင့်တိုးတက်သွားရမယ်။ ဘယ်အဆင့်ပြီးရင် ဘယ်အဆင့်ကို ရောက်ရမယ်ဆိုတာတွေဟာ တရားတော်ဘဲမှာ အတိအကျရှိတယ်။ အဲဒီလိုစိတ်ဟာတဆင့်ပြီးတဆင့်တိုးတက်သွားနေတာကိုလဲ သူများအပြောနဲ့မဟုတ်ဘဲကိုယ့်ကိုယ်တိုင် သိရမယ်။ အဲဒီလောက်အထိတရားတော်က တိတိကျကျဆိုထားတယ်။ အဲဒီတော့ ဒီလိုစိတ်ရဲ့တိုးတက်သွားရမဲ့အဆင့်တွေဟာ ဘာတွေလဲ။

စိတ်တိုးတက်သွားရမဲ့ အဆင့်ကြီးဟာ ၄ ဆင့်ရှိတယ်။ ဒီအဆင့်ကြီးတွေကတော့--

၁။ သောတာပတ္တိမဂ်ဖိုလ်အဆင့်။

၂။ သကဒါဂါမိမဂ်ဖိုလ်အဆင့်။

၃။ အနာဂါမိမဂ်ဖိုလ်အဆင့်။

၄။ အရဟတ္တမဂ်ဖိုလ်အဆင့်တို့ဘဲ ဖြစ်တယ်။

ပထမအဆင့်ကြီးဖြစ်တဲ့ သောတာပတ္တိမဂ်ဖိုလ် အဆင့်ကို ရောက်တာနဲ့ တပြိုင်နက် ငါ ငါ ငါဖြစ်အောင် အမြဲတမ်း မြှောက်ပေးနေတဲ့ ဒိဋ္ဌိနဲ့ ဝိစိကိစ္ဆာလို့ ခေါ်တဲ့ စိတ်ရဲ့ သတ္တိထူး နှစ်ခုဟာ တခါထဲကွယ်ပျောက်သွားကြတယ်။ ဒီအချက်ကိုနား လယ်ဘို့အတွက် နဲနဲရှင်းပြဘို့လိုလိမ့်မည်ထင်တယ်။ စိတ်မှာ ကြိုက်တာနဲ့ တွေ့ရင် လောဘဖြစ်စေတတ်တဲ့သတ္တိ၊ မကြိုက်တာ နဲ့တွေ့ရင် ဒေါသဖြစ်စေတတ်တဲ့သတ္တိ၊ ကာမနဲ့ဆိုင်တဲ့အာရုံနဲ့ တွေ့ရင် ကာမရာဂစိတ်တွေဖြစ်စေတတ်တဲ့သတ္တိ၊ မာနဖြစ်စေ တတ်တဲ့သတ္တိ၊ ကြောက်စေတတ်တဲ့ သတ္တိ၊ တဖက်သားကိုမနာလို ဝန်တိုစေတတ်တဲ့သတ္တိ၊ ကိုယ့်ကိုယ်နဲ့တကွ တလောကလုံး အပေါ်မှာ၊ အမြင်လွဲမှားစေတတ်တဲ့သတ္တိ၊ တရားပေါ်မှာ သို လောသိုလောနဲ့ ယုံမှားသံသယဖြစ်စေတတ်တဲ့သတ္တိ အစရှိ သဖြင့် စိတ်ရဲ့သတ္တိတွေ အများကြီးရှိတယ်။ ပထမ အဆင့်ကြီး ဖြစ်တဲ့ သောတာပတ္တိမဂ်ဖိုလ်ကိုရောက်တာနဲ့ တပြိုင်နက် ဒိဋ္ဌိလို့ ခေါ်တဲ့အမြင်လွဲမှားစေတတ်တဲ့ သတ္တိနဲ့ ဝိစိကိစ္ဆာလို့ ခေါ်တဲ့ သိုလောသိုလောနဲ့ ယုံမှားသံသယဖြစ်စေတတ်တဲ့ သတ္တိနှစ်ခု ဟာ စိတ်ထဲမှာမရှိတော့ဘူး၊ စိတ်ထဲကလုံးဝကွယ်ပျောက်သွား တယ်။ အဲဒီသတ္တိနှစ်ခုဟာ ငါ-ငါ-ငါဖြစ်နေအောင် အစဉ် မြှောက်ပေးနေတဲ့ငါရဲ့ အကြောင်းရင်းကြီးတွေဘဲ ဖြစ်တယ်။ ဒီအကြောင်းရင်းကြီးတွေ ကွယ်ပျောက်သွားတာနဲ့ တပြိုင်နက် အကျိုးဖြစ်တဲ့ငါဟာလဲ တခါထဲကွယ်ပျောက်ရတာပါဘဲ။ အဲဒီ သူမှာ ငါဆိုတာမရှိတော့ဘူး၊ အဲဒီလို ငါမရှိတော့တဲ့ အတွက် ဒီလူမှာ လောဘနဲ့ ဒေါသတွေရှိသလောက် ရှိနေသေးပေမဲ့

ရှေးကလို မပြင်းထန်တော့ဘူး။ သောတာပတ္တိမဂ်ဖိုလ် အဆင့်ကြီးကိုမရောက်ခင်က လူတယောက်ဟာဒေါသတွေ ထွက်လာရင် သူများအသက်ကို သတ်တယ်ဆိုပါတော့။ လောဘထွက်လာရင် သူ့ဥစ္စာကိုခိုးတယ်၊ ကိုယ့်ကာမပိုင်မဟုတ်တဲ့ ပုဂ္ဂိုလ်များနဲ့ကာမရာဂစပ်ရှက်တယ်၊ လိမ်ပြောတယ်၊မူးယစ်စေတတ်တဲ့သေရည်သေရက်ကို သောက်တယ်ဆိုပါတော့၊ အဲဒီလူဟာ ပထမအဆင့်ကိုရောက်ပြီးရင်ဘယ်လိုနည်းနဲ့မှ မသတ်လဲမသတ်နိုင်တော့ဘူး၊မခိုးလဲမခိုးနိုင်တော့ဘူး၊ ကာမရာဂနဲ့ပတ်သက်ပြီး ဖေါက်ပြားမှုလဲ မရှိနိုင်တော့ဘူး၊ လိမ်လဲ မပြောနိုင်တော့ဘူး၊ အရက်လဲမသောက်နိုင်တော့ဘူး၊ ဒိကိစ္စတွေနဲ့ ပတ်သက်ပြီးသူ့ကိုယ်ကိုသူ အထူး ထိန်းသိမ်းစောင့်ရှောက်ဘို့ မလိုတော့ဘူး။ နောက်ပြီးတော့ ရှေးအခါက သို့လောသို့လောနဲ့ သံသယဖြစ်ခဲ့တဲ့ ဝါဒတွေအပေါ်မှာလဲ ဘယ်နည်းနဲ့မှ သံသယတွေမဖြစ်ပေါ်နိုင်တော့ဘူး၊ သူ့စိတ်ရဲ့ကျက်စားရာ အာရုံတွေ အပေါ်မှာလဲမှားယွင်းတဲ့ ယုံကြည်မှု မရှိနိုင်တော့ဘူး။ လက်နှစ်ဘက်အဖြတ်ခံထားရတဲ့လူတဦးဟာ သူ့လက်နဲ့အခြားလူတယောက်ကိုမသတ်နိုင်တော့သလိုသောတာပတ္တိမဂ်ဖိုလ်အဆင့်ကိုရောက်ပြီးတဲ့ ပုဂ္ဂိုလ်တဦးဟာလဲ အခုပြောခဲ့တဲ့ မကောင်းမှုတွေကို ဘယ်နည်းနဲ့မှ မကျူးလွန်နိုင်တော့ဘူး။

ဒီအဆင့်အကြောင်းကို ပြောတဲ့အခါ အင်မတန် မှတ်သားစရာကောင်းတဲ့အဖြစ်အပျက်တခုကို ဂျွန်တော်ပြေးပြီး သတိရမိတယ်။

အခုပြောခဲ့တဲ့ ပထမအဆင့်ဖြစ်တဲ့ သောတာပတ္တိမဂ်ဖိုလ်အဆင့်ကိုရောက်ဘို့ လမ်းမှာ အဆင့်ငယ် ၁၁ ဆင့်ရှိပါတယ်။ သိပ်ပြီး ရှေနေမှာ စိုးတဲ့အတွက် ဒီအဆင့်ငယ်တွေရဲ့အကြောင်း

ကိုရှင်းမပြတော့ဘူး။ သူတို့ကိုအစဉ်အလိုက် နာမယ်သာဖော်ပြတော့မယ်။

ဒီအဆင့်ငယ် ၁၁ ဆင့်ကတော့-

၁။ ရုပ်နှင့် နာမ်ကို ခွဲခြားပြီး သိတဲ့ဉာဏ်။

၂။ အကြောင်းနှင့်အကျိုးကိုခွဲခြားပြီး သိတဲ့ဉာဏ်။

၃။ အနိစ္စ၊ ဒုက္ခ၊ အနတ္တကို သဘောပေါက်ပြီး သုံးသပ်ဆင်ခြင်တဲ့ဉာဏ်။

၄။ ရုပ်နာမ်တို့၏ဖြစ်ခြင်းပျက်ခြင်းကို သိတဲ့ဉာဏ်။

၅။ အာရုံနှင့်တကွရှင်းကိုရှုသော စိတ်၏ပျက်ခြင်းကိုသိတဲ့ဉာဏ်။

၆။ ရုပ်နာမ်တို့ကို ကြောက်ဖွယ်ဟုသိတဲ့ဉာဏ်။

၇။ ရုပ်နာမ်များကို အပြစ်ဟု သိတဲ့ဉာဏ်။

၈။ လောကကြီးတခုလုံးကို ငြီးငွေ့ဖွယ်ဟုသိတဲ့ဉာဏ်။

၉။ လောကမှ လွတ်မြောက်လိုသော ဆန္ဒကို ဖြစ်စေတဲ့ဉာဏ်။

၁၀။ လွတ်မြောက်စေရန် တဖန် အားထုတ်၍ အနိစ္စ၊ ဒုက္ခ၊ အနတ္တတို့ကို အထူးသိတဲ့ဉာဏ်။

၁၁။ ဖြစ်ပျက်နေသော ရုပ်နာမ်တို့ အပေါ်တွင်နှစ်သက်ခြင်း မုန်းခြင်းကင်း၍ လျစ်လျူရှုတဲ့ ဉာဏ်တွေဖြစ်တယ်။

အဲဒီအဆင့်ငယ် ၁၁ဆင့်ကို ရောက်ပြီးတဲ့ နောက် ပထမအဆင့်ကြီးဖြစ်တဲ့ သောတာပတ္တိမဂ်ဖိုလ် အဆင့်ကိုရောက်တယ်၊ အဲဒီပထမအဆင့်ကို ရောက်တဲ့ပုဂ္ဂိုလ်ကို ပါဠိလို သောတာပန်လို့ခေါ်ပါတယ်။ အဲဒီအဆင့်ကို ရောက်ပြီး ရှေးကအတိုင်း တရားဆက်အားထုတ်ရင် ဒုတိယအဆင့်ဖြစ်တဲ့ သကဒါဂါမိမဂ်ဖိုလ်အဆင့်ကို ရောက်တယ်။ ဒီဒုတိယအဆင့်ကို ရောက်တဲ့

ပုဂ္ဂိုလ်ကို သကဒါဂါမ်လို့ ခေါ်ပါတယ်၊ အဲဒီဒုတိယအဆင့်ကို ရောက်တဲ့အခါ ပထမအဆင့်ထက် ထင်ထင်ရှားရှား ထူးခြားချက်တခုကတော့ တခြားဟာမဟုတ်ဘူး၊ ပထမအဆင့်မှာတုန်းကထက် ဒေါသလောဘတွေရဲ့အရှိန်ဟာ မိုပြီးလျော့သွားတဲ့အချက်ဘဲဖြစ်တယ်။

အဲဒီဒုတိယအဆင့်ကို ရောက်ပြီး ရှေးကလိုဘဲ တရားဆက်အားထုတ်ရင် တတိယအဆင့်လို့ခေါ်တဲ့ အနာဂါမ်မဂ်ဖိုလ်အဆင့်ကိုရောက်ပါတယ်။ ဒီတတိယ အဆင့်ကို ရောက်တဲ့ပုဂ္ဂိုလ်ကို အနာဂါမ်လို့ခေါ်ပါတယ်။ ဒီတတိယ အဆင့်ကိုရောက်တဲ့အခါမှာတော့ အင်မတန်ထူးခြားတဲ့ ထူးခြားချက်ကြီးတွေကိုတွေ့ရတယ်။ ဒီအနာဂါမ်ရဲ့ စိတ်ထဲမှာ ဒေါသဖြစ်စေတတ်တဲ့သတ္တိတွေမရှိတော့ဘူး။

ကြောက်စရာနဲ့တွေ့ရင် ကြောက်စေတတ်တဲ့သတ္တိတွေလဲမရှိတော့ဘူး ကာမရာဂ ဖြစ်စေတတ်တဲ့ သတ္တိတွေ လဲ မရှိတော့ဘူး။တခါထဲအပြီးအပိုင်လုံးဝ ကွယ်ပျောက်ကုန်ကြတယ်။ အဲဒီလို ကွယ်ပျောက်ကုန်တဲ့အတွက် ဒီအနာဂါမ်ကို စိတ်ဆိုးအောင် လုပ်နိုင်တဲ့ပုဂ္ဂိုလ်ဟာ တလောကလုံးဘယ်မှာမှ မရှိတော့ဘူးကြောက်အောင်လုပ်နိုင်တဲ့ ပုဂ္ဂိုလ်ဟာလဲ တလောကလုံး ဘယ်မှာမှ မရှိတော့ဘူး။ ကာမရာဂ စိတ်တွေဖြစ်အောင်လုပ်နိုင်တဲ့ပုဂ္ဂိုလ်လဲတလောကလုံး ဘယ်မှာမှမရှိတော့ဘူး။

ဒီအနာဂါမ်မှာလောဘတော့နဲနဲကျန်သေးတယ်၊ဒီလောဘကတော့ တခြားဟာ မဟုတ်ဘူး။ သူသေသွားရင် ဗြဟ္မာဘုံမှာဗြဟ္မာဖြစ်ချင်နေတဲ့ လိုချင်တောင့်တမှု တခုဘဲဖြစ်ပါတယ်။

အဲဒီတတိယအဆင့်ကို ရောက်ပြီးရှေးကလိုဘဲ တရားဆက်အားထုတ်ရင် စတုတ္ထအဆင့်လို့ ခေါ်တဲ့ အရဟတ္တမဂ်ဖိုလ်

အဆင့်ကိုရောက်မယ်။ ဒီအဆင့်ကိုရောက်တဲ့ ပုဂ္ဂိုလ်ကိုအရဟတ္တ လို့ခေါ်တယ်။ အဲဒီအဆင့်ကို ရောက်တဲ့အရဟတ္တမှာ ဒေါသ တွေလောဘတွေအလျှင်းမရှိတော့ဘူး။

သိပ္ပံပညာရှင်များခင်ဗျား။

အခုကျွန်တော် ပြောခဲ့တဲ့ ဟာတွေဟာ ဂေါတမ မြတ်စွာ ဘုရားသခင် ဟောကြားထားတော်မူခဲ့တဲ့ လောဘ၊ ဒေါသ၊ မောဟဆိုတဲ့ ကိလေသာဟူသမျှကို အမြစ်ဖြတ်နိုင်တဲ့ တရား တော်ထဲကလိုရင်းအချက်တဲ့ ဖြစ်ပါတယ်၊ မြတ်စွာဘုရားသခင် က တရားတော်မှာ ဂုဏ်တော်ခြောက်ပါး ရှိတယ်လို့ ရဲဝံ့စွာ ဟောကြားထားတော်မူခဲ့ပါတယ်၊ ဒီဂုဏ်တော် ခြောက်ပါးက တော့ အောက်ပါအတိုင်းပါတယ်။

၁။ သွာက္ခာတော၊မြတ်စွာဘုရား၏တရားတော်သည်ကြံစည် တွေးဆ၍ ဟောထားသည်မဟုတ်ဘဲအမှန်အတိုင်းသိပြီးမှ ဟော ထားသော တရားတော်ဖြစ်သောကြောင့် ကောင်းမွန်မှန်ကန်စွာ ဟောထားသောတရားတော်ပါပေတည်း။

၂။ သန္ဒိဋ္ဌိကော၊ ကျင့်ကြံအားထုတ်လျှင် ကိုယ်တိုင်တွေ့နိုင် သော တရားတော်ပေတည်း။

၃။ အကာလိကော၊ နေ့ခင်းတမလွန်ဘဝမှမဟုတ်ဘဲ ယခု ဘဝမှာပင်လက်ငင်းအကျိုးရစေသည့်တရားတော်ပါပေတည်း။

၄။ ဧဟိပဿိကော၊ ဤတရားတော်ကိုလာကြည့်စမ်းပါဟု ဘိတ်ခေါ်တိုက်တွန်းထိုက်သော တရားတော်ပါပေတည်း။

၅။ ဩပနေယျိကော၊ မိမိသန္တာန်၌ ဆောင်ထားထိုက် သော တရားတော်ပါပေတည်း။

၆။ ပစ္စတ္တံ ဝေဒိတဗ္ဗော ဝိညူဟိ၊ တရားမြင်သိတဲ့ပညာရှိရှစ် ပါးအရိယာများသာလျှင်ကိုယ်စီကိုယ်င အသီးသီး ခံစားရသိရ သောတရားတော်ပါပေတည်း။

ဤ၌ အရိယာရှစ်ပါးဟူသည်မှာ-

၁။ သောတာပတ္တိမဂ်သို့ ရောက်ဆဲ သောတာပတ္တိမဂ်ပုဂ္ဂိုလ် ၁ ပါး။

၂။ သကဒါဂါမိမဂ်သို့ ရောက်ဆဲ သကဒါဂါမိမဂ်ပုဂ္ဂိုလ် ၁ ပါး။

၃။ အနာဂါမိမဂ်သို့ရောက်ဆဲအနာဂါမိမဂ်ပုဂ္ဂိုလ် ၁ပါး။

၄။ အရဟတ္တမဂ်သို့ရောက်ဆဲအရဟတ္တမဂ်ပုဂ္ဂိုလ် ၁ ပါးဆိုတဲ့ မဂ်ပုဂ္ဂိုလ် ၄ပါးနှင့်။

၁။ သောတာပတ္တိ ဖိုလ်သို့ ရောက်နေသော သောတာပန်ပုဂ္ဂိုလ် ၁-ပါး။

၂။ သကဒါဂါမိဖိုလ်သို့ ရောက်နေသော သကဒါဂါမိပုဂ္ဂိုလ် ၁ ပါး။

၃။ အနာဂါမိဖိုလ်သို့ ရောက်နေသော အနာဂါမိပုဂ္ဂိုလ် ၁-ပါး။

၄။ အရဟတ္တဖိုလ်သို့ရောက်နေသောရဟန္တာပုဂ္ဂိုလ်တပါးဆိုတဲ့ဖိုလ်ပုဂ္ဂိုလ် ၄ ပါးတို့ပင် ဖြစ်ပါတယ်။

အဲဒီတော့ သဘာဝတရားအသစ်တွေကို စူးစမ်းရှာဖွေနေရုံသာမက သဘာဝတရား အဟောင်းတွေကိုလဲ စမ်းသပ်စစ်ဆေးပြီး မမှန်တာကို တွေ့ရရင် ဘယ်သူ့မျက်နှာမှ မထောက်ထားဘဲ ရဲရဲရင့်ရင့်ပစ်ပယ်ဝံ့ပြီး မှန်တာကို တွေ့ရရင်လဲ ဘယ်သူကဲ့ရဲ့မှာကိုမှမကြောက်ရွံ့ဘဲ လက်ခံဝံ့တဲ့ သိပ္ပံရှင်များအားမြတ်စွာဘုရားသခင်ရဲ့ဒုက္ခအပေါင်းက လွတ်မြောက်စေနိုင်ကဲ့တရားတော်ကြီးကို ကိုယ်စွမ်း ရှိသရွေ့ဉာဏ်စွမ်းရှိသရွေ့ စမ်းသပ်စစ်ဆေးကြည့်ကြဘို့ ကျွန်တော်လေးနက်စွာ တိုက်တွန်းလိုက်ပါတယ်။

# အကျိုးကြီးမားး မေတ္တာ တရား

အိန္ဒိယပြည် ဗါရာဏသီမြို့ ဟိန္ဒူတက္ကသိုလ်တွင် ၁၉၆၂ ခုနှစ် ဇန်နဝါရီလ ၁၃ ရက်နေ့က ပြောကြားသော နိုင်ငံတော်ဝန်ကြီးချုပ် ဦးနု၏ မေတ္တာဆိုတာဘာလဲ ဟောပြောချက်မှာ အောက်ပါအတိုင်းဖြစ်လေသည်။

မေတ္တာဆိုတာဘာလဲ....

နာယကကြီးနဲ့ ပရိတ်သတ်အပေါင်းတို့ခင်ဗျား။

မြတ်စွာဘုရားသခင် ဟောကြားထားတော်မူခဲ့တဲ့ တရားတော်တွေထဲမှာ မေတ္တာဟာ အရေးအကြီးဆုံး တရားတပါးဖြစ်ပါတယ်၊ အဲဒီလိုဆိုရင် မေတ္တာဆိုတာဘာလဲ။

မေတ္တာနဲ့ ပတ်သက်ပြီးအဓိပ္ပါယ် သုံးမျိုးဖွင့်ထားတာကို ကျွန်တော်တွေ့ရပါတယ်၊ အဲဒီသုံးမျိုးကတော့။

၁။ အကြင်တရားသဘောသည် ချစ်ခင်တတ်၏၊ ထို့ကြောင့် ထိုတရားသဘောသည် မေတ္တာမည်၏။

၂။ မိတ်ဆွေခင်ပွန်း ဖြစ်သည်တည်း၊ ထို့ကြောင့်မေတ္တာမည်၏။

၃။ အဆွေခင်ပွန်း၏ဥစ္စာတည်း။ ထို့ကြောင့်မေတ္တာမည်၏ ဆိုတာတွေဘဲဖြစ်ပါတယ်။

ဒီအဓိပ္ပါယ်တွေကိုခပ်လွယ်လွယ်နဲ့ ထပ်ပြီးပြောရမယ်ဆိုရင် ဒီလိုပြောနိုင်ပါတယ်။

၁။ မေတ္တာကိုပွားနေတဲ့သူမှာ ဒေါသကင်းတယ်၊ တဘက်သားကိုချစ်ခင်တဲ့စိတ်သာရှိတယ်။

၂။ အဆွေ ခင်ပွန်း အချင်းချင်းတွင် ချစ်ခင်ခြင်းသာ ဖြစ်သည့်လို မေတ္တာဟာလဲချစ်ခင်ခြင်းသာဖြစ်တယ်လို့ ဆိုလိုပါတယ်။

၃။ ပုဂ္ဂိုလ်တဦးဟာ မိတ်ဆွေတဦးအပေါ်မှာ ဒေါသမရှိသလို မေတ္တာကိုပွားနေတဲ့လူမှာလဲ ဒေါသကင်းတယ်။

မေတ္တာရဲ့ အဓိပ္ပါယ်တော့သိရပြီး မေတ္တာရဲ့ သဘောဟာ ဘာလဲဆိုတာကိုကြည့်ရအောင်။

မေတ္တာမှာ

၁။ ဖွံ့စည်းစေနိုင်တဲ့ သဘောရှိတယ်။

၂။ ရန်ငြိုးဖွဲ့ခြင်း ကင်းပျောက်စေတဲ့ သဘောရှိတယ်။

၃။ တဘက်သားအား မိမိကိုချစ်ခင်နှစ်သက်အောင် လုပ်နိုင်တဲ့သဘောရှိတယ်။

၄။ တဘက်သားအား နှိပ်စက် ညှဉ်းဆဲ လိုစိတ်ကင်းတဲ့ သဘောရှိတယ်။

၅။ အမျက်ဒေါသ ကင်းငြိမ်းတဲ့ သဘောရှိတယ်။

ဒီနေရာမှာ တခုတော့ သတိ ပေးပါရစေ၊ ပုဂ္ဂိုလ် တချို့က သွီးရည်းစား ချစ်တာကြိုက်တာ လင်မယားချစ်တာကြိုက်တာကို မေတ္တာလို့ အမှတ်မှားနေပါတယ်။ သွီးရည်းစား၊ လင်မယား ချစ်တာကြိုက်တာဟာ မေတ္တာမဟုတ်ပါဘူး။တဏှာရာဂဖြစ်ပါတယ်။အမှန်စင်စစ် တဏှာရာဂဟာ မေတ္တာရဲ့ရန်သူးခလုပ်ကြီး တခုဖြစ်ပါတယ်၊ မေတ္တာဟာ။

(၁) ကာယကံမေတ္တာ၊

(၂) ဝစီကံမေတ္တာ၊

(၃) မနောကံမေတ္တာရယ်လို့ သုံးမျိုးရှိပါတယ်။

### ကာယကံ မေတ္တာဟူသည်

ရှေးဦးစွာ ကာယကံ မေတ္တာအကြောင်းကို ရှင်းပြပါ့မယ်။

မိခင်ဘခင်ကသားငယ်သွီးငယ်တွေကို မချမ်းရအောင်မပူရအောင် စောင့်ရှောက်ထား၊ မှက်၊ခြင်၊ယင်၊မြွေ၊ကင်း၊ သန်းတို့မှ

မကိုက်ရအောင်စောင့်ရှောက်တာ နေမပူရအောင်၊လေမတိုက်ရအောင်စောင့်ရှောက်တာ၊နို့တိုက်ထား၊ထမင်းကျွေးတာ၊ ရေချိုးပေးတာတွေကစပြီးမိမိတို့ရဲ့ သားငယ် သမီးငယ်တွေမဆင်းရဲရအောင်၊ ဒုက္ခမရောက်ရအောင် အစစအရာရာ ကိုယ်ဘိ ရင်ဘိ စောင့်ရှောက်ပြုစု လုပ်ကိုင်ပေးတာတွေဟာ ကာယကံ မေတ္တာတွေဘဲ။

သားသမီးတွေကလဲ အမိအဘတွေကို အစားအစာကျွေးမွေးတာ၊ ခြေဆုပ် လက်နယ်ပြုတာ၊ ရေချိုးပေးတာ၊ ချေးတွန်းပေးတာ၊အဝတ်အစားဖွပ်ပေးတာ၊ ညအိပ်ရာဝင် နံနက် အိပ်ရာထကန်တော့တာတွေကစပြီး မိဘကို အစစအရာရာမှာ ချစ်ခင်တဲ့စိတ်နဲ့ ကိုယ်ဘိ ရင်ဘိစောင့်ရှောက်ပြုစုတာတွေဟာ ကာယကံ မေတ္တာတွေဘဲ။

ဆရာကလဲတပည့်ကိုအဝတ်အစားငွေကြေးတို့နဲ့ထောက်ပံ့တာ၊မကျန်းမာတဲ့အခါ ကိုယ်ဘိရင်ဘိပြုစုတာ၊အခက်အခဲတွေနဲ့ တွေ့နေတဲ့အခါ ကိုယ်တိုင်တတ်နိုင်သလောက်ကူညီတာတွေကစပြီး တပည့်ကိုချစ်တဲ့စိတ်နဲ့ကိုယ်ဘိရင်ဘိပြုစုစောင့်ရှောက်တာတွေဟာ ကာယကံ မေတ္တာ တွေဘဲ။ တပည့်ကလဲ ဆရာရဲ့ ဝတ်ကြီးဝတ်ငယ်ကို ချစ်ခင်တဲ့စိတ်နဲ့ ကိုယ်ဘိ ရင်ဘိ ပြုစုရှက်ဆောင်တာဟာ ကာယကံမေတ္တာတွေဘဲ၊

နောက်ပြီးတော့ မိတ်ဆွေတယောက်က မိမိဆီကို အလည်လာတဲ့မိတ်ဆွေတယောက်ကို ခရီးဦးကြိုပြုတာ၊ လိုက်ပို့တာ၊ အိပ်ရာနေရာပေးတာ၊ အစားအသောက်ကျွေးမွေးတာတွေဟာ ကာယကံတွေဘဲဖြစ်တယ်။

အဲဒီလိုဘဲ မယားက လင်ယောကျ်ားကို ကြင်ကြင်နာနာပြုစု

တာ၊လင်ကမယားကို ဝတ္တုရားကျေပွန်အောင်ကြင်ကြင်နာနာပြု စုတာတွေဟာလဲ ကာယကံမေတ္တာတွေပါဘဲ။

အတိုချုပ်ပြောရမယ်ဆိုရင် တယောက်က တယောက်ကိုချစ် ချစ်ခင်ခင် ကြင်ကြင်နာနာနဲ့ ကိုယ်ဘိ ရင်ဘိ ပြုစုစောင့်ရှောက် ထာမှန်သမျှဟာ ကာယကံမေတ္တာတွေချည်းပါဘဲ။

## ဝစီကံ မေတ္တာဆိုသည်မှာ

ဝစီကံမေတ္တာဆိုတာကလဲ တခြားမဟုတ်ပါဘူး။ တဦးက တဦးကိုချစ်ခင်တဲ့စိတ်နဲ့ ပြောတာ ဆိုတာတွေဟာ ဝစီကံ မေတ္တာတွေဖြစ်ပါတယ်။

အမိအဘဖြစ်သူက သားသမီးတွေကို ဇွဲ ပါး ရောဂါဝေဒ နာမှ ကင်းပါစေ၊ထိမဲ့ခလုပ် ဆုတ်ပါစေ၊ လာမဲ့ဘေး ဝေးပါ စေ၊ ကြီးတိုင်းအောင်လို့ ဆောင်တိုင်းမြောက်ပါစေ စသဖြင့် ဆုတောင်းတာတွေဟာ ဝစီကံမေတ္တာတွေဖြစ်ပါတယ်။

နောက်ပြီးတော့ တယောက်က အခြားတယောက်ကို ဒီလူ ဟာ သီလရှိတယ် သမာဓိရှိတယ်။အရည်အချင်းနဲ့ပြည့်စုံတယ် ဆိုပြီး ချီးကျူးပြောဆိုတာမျိုးတွေလဲ ဝစီကံမေတ္တာတွေ ဖြစ်ပါ တယ်။

နောက်ထပ်ပြီးတော့လဲ လူကြီးရင်ကြီးသလို ငယ်ရင် ငယ်သ လို အရွယ်နဲ့လိုက်ပြီး အဘိုး၊အဘွား၊ ဘကြီး၊ဦးကြီး ဦးလေး၊ ကြီးကြီး။ဒေါ်ဒေါ်၊အမကြီး၊ညီလေး၊ညီမလေး တူ၊ တူမအစရှိ သဖြင့် ခေါ်ကြတာတွေလဲ ဝစီကံမေတ္တာတွေပါဘဲ။

## မနောကံ မေတ္တာ

မနောကံမေတ္တာဆိုတာက ကိုယ်နဲ့နှုတ်မပါဘဲ၊ စိတ်နဲ့ ပြု တဲ့ မေတ္တာဖြစ်တယ်။ ဘေးရန်ခပ်သိမ်း ကင်းငြိမ်းပါစေ၊ ကြောင့်ကြခပ်သိမ်း ကင်းငြိမ်းပါစေ။ ဆင်းရဲခပ်သိမ်းငြိမ်းပါစေ၊

နှလုံးစိတ်ဝမ်း အေးချမ်းပါစေ။ တိုင်းသူပြည်သား သာယာဝပြောပါစေ၊အာဏာပိုင်ကြီးငယ်တွေလဲ တိုင်းသူပြည်သားတွေကို ရင်ဝယ်သားလိုတရားသဖြင့်စောင့်ရှောက်နိုင်ပါစေ၊တရားစောင့် ကြပါစေစသည်ဖြင့် စိတ်သက်သက်နဲ့ မေတ္တာပို့တာဟာ မနောကံမေတ္တာတွေဖြစ်ပါတယ်။

မေတ္တာအမျိုးအစားတွေကိုခွဲခြားပြပြီးတဲ့နောက်မေတ္တာရဲ့ အကျိုးကို ကျွန်တော်ဆက်ပြီး ပြောချင်ပါတယ်။

မေတ္တာကိုပွားများခြင်းအတွက် ပစ္စုပ္ပန်အကျိုးနဲ့ တမလွန် အကျိုးဆိုပြီး အကျိုးနှစ်မျိုးရနိုင်ပါတယ်။ အဲဒီတော့ တမလွန် အကျိုးကို ဘယ်လိုရနိုင်တယ်ဆိုတာ အင်္ဂုတ္တရနိကာယ် နဝက နိပါတ် သီဟနာဒဝဂ္ဂ ပါဠိတော်မှာ မြတ်စွာဘုရား ဟောကြား ထားတော်မူခဲ့တာ အထင်အရှားရှိပါတယ်။

ကျွန်တော်တို့ ဂေါတမ မြတ်စွာဘုရားရှင် အလောင်းတော် ဟာ ဝေလာမပုဏ္ဏားဖြစ်စဉ်က ဇမ္ဗူဒီပါ တကျွန်းလုံး တုန်လှုပ် ချောက်ချားအောင် ရွှေ ငွေ ရတနာ ကျောက်သံပတ္တမြားတွေ အဝတ်အစားတွေကို လှူခဲ့ပါတယ်။ အစားအသောက် တွေကိုဆို ရင်လည်း ထမင်းရည်ချောင်းစီးအောင်လှူခဲ့ပါတယ်။ ဒီလောက် လှူခဲ့ပေမဲ့ သောတာပန် တပါးကို ဆွမ်းကျွေးရတာက ဝေလာမ ပုဏ္ဏားကြီးရဲ့ အလှူထက်မြတ်တယ်၊သောတာပန်ပေါင်း တရာကို ဆွမ်းကျွေးရတာထက် သကဒါဂါမ်တပါးကို ဆွမ်းကျွေးရ တာကပိုပြီးမြတ်တယ်။သကဒါဂါမ်ပေါင်းတရာကိုဆွမ်းကျွေးရ တာထက် အနာဂါမ်တပါးကို ဆွမ်းကျွေးရတာကပိုပြီး မြတ် တယ်။အနာဂါမ်ပေါင်းတရာကိုဆွမ်းကျွေးရတာထက် ရဟန္တာ တပါးကို ဆွမ်းကျွေးရတာက ပိုပြီးမြတ်တယ်။ရဟန္တာတရာကို ဆွမ်းကျွေးရတာထက် သဗ္ဗညု မြတ်စွာဘုရား တဆူကို ဆွမ်း

ကျွေးရတာက ပိုပြီးမြတ်တယ်။ သဗ္ဗညု မြတ်စွာဘုရားတဆူကို ဆွမ်းကျွေးရတာထက် သဗ္ဗညု မြတ်စွာဘုရားအမှူးရှိတဲ့ သံဃာတော်တွေကို ဆွမ်းကျွေးရတာက ပိုပြီးမြတ်တယ်။ သဗ္ဗညု မြတ်စွာဘုရားအမှူးရှိတဲ့ သံဃာတော်တွေကိုဆွမ်းကျွေးရခြင်းထက် စတုဒိသာ သံဃာကို ရည်မှန်းပြီးကျောင်းဆောက်လှူဒါန်းရတာက ပိုပြီးမြတ်တယ်။ စတုဒိသာ သံဃာကို ရည်မှန်းပြီး ကျောင်းဆောက်လှူဒါန်းရတာထက်ကြည်ညိုတဲ့ စိတ်နဲ့ ဘုရား တရား သံဃာ ရတနာ မြတ်သုံးပါးကိုဆည်းကပ်ရတာက ပိုပြီး မြတ်တယ်။ရတနာသုံးပါးကို ယုံကြည်စွာ ဆည်းကပ်ရခြင်းထက် ငါးပါးသီလကို ဆောက်တည်ရခြင်းက ပိုပြီးမြတ်တယ်။ငါးပါး သီလကို ဆောက်တည်ရခြင်းထက် မေတ္တာတရားကိုနွားနို့တခါ ညှစ် အချိန်မျှလောက် ပွားများရခြင်းက ပိုပြီး မြတ်တယ်လို့ မြတ်စွာဘုရားဟောကြားထားခဲ့ပါတယ်။

## မေတ္တာအကျိုး ကြီးမားခြင်း

နောက်ပြီးတော့လည်း လူကြီးမင်းများခင်ဗျား။မေတ္တာရဲ့ အကျိုးဟာ အင်မတန် ကြီးမားလွန်းလို့ ဒီမေတ္တာတရားကိုသဗ္ဗညု ဝါတွေ အထူးပွားများစေချင်တဲ့ မဟာ ကရုဏာတော်ကြီးနဲ့။

ချစ်သားတို့-ကောင်းမှုကုသိုလ်တို့ကို သဒ္ဓါတွန့်၍ မကြောက် ရွံ့ကြပါကုန်လင့်။ ချစ်သားတို့ ကောင်းမှုဟူသော ဤအမည် သည် ချမ်း သာ သုခ၏ အမည် သညာ တည်း။ ချစ်သားတို့- ကောင်းမှုတို့ကိုရှာမှီးသောသူ၏ ကောင်းမှုတို့၏အကျိုးကိုပညာ စက္ခုဖြင့်ကြည့်ရှုပါလော့။

ချစ်သားတို့ ၇-နှစ်ပတ်လုံး မေတ္တာနှင့် ယှဉ်သော စိတ်ကို ပွားခဲ့သည့် အကျိုးကြောင့် မိမိအလိုဆန္ဒအတိုင်း အခါခပ်

သိမ်း ပြည့်ဝစေနိုင်သော မဟာမြဟ္မာကြီးသည် ခုနစ်ကြိမ်ဖြစ်ဘူးကုန်ပြီ။ သုံးဆယ့် ခြောက်ကြိမ် နတ်တို့ကို အစိုးရသော သိကြားမင်းဖြစ်ခဲ့ဘူးပြီ၊ ဇမ္ဗူဒိပ်ကျွန်းကို အစိုးရသော စကြာဝတေးမင်း အကြိမ်ပေါင်းများစွာဖြစ်ခဲ့ဘူးပြီလို့ သတ္တအင်္ဂုတ္တရ ပါဠိတော်အဗျာကတဝဂ်မှာ မြတ်စွာဘုရားသခင် ဟောကြား ထားတော်မူခဲ့ပါတယ်။

တမလွန်အကျိုးကို ပြောပြီးလို့ အခုဘဝမှာ မုချရနိုင်တဲ့ မေတ္တာရဲ့ ပစ္စုပ္ပန်အကျိုးကို ကျွန်တော်ပြောပါတော့မယ်။

## မေတ္တာအကျိုး ၁၁ ပါး

မေတ္တာတရားကို ပွားများတဲ့အတွက် ပစ္စုပ္ပန်အကျိုး ၁၁ ပါးရနိုင်ပါတယ်။

၁ ချမ်းသာစွာ အိပ်စက်ရခြင်း၊ ၂ ချမ်းသာစွာ နိုးကြားရခြင်း၊ ၃ မကောင်းသော အိပ်မက်ကိုမမြင်မက်ခြင်း၊ ၄ လူတို့ ချစ်နှစ်သက်ခြင်း၊ ၅ နတ်တို့ ချစ်နှစ် သက်ခြင်း၊ ၆ နတ်တို့ စောင့်ရှောက်ခြင်း၊ ၇ မီးမလောင်အဆိပ်မသင့် လက်နက်မစူး မရှခြင်း၊ ၈ မတည်ကြည်သော စိတ်သည်လည်း လျင်မြန်စွာ တည်ကြည်ခြင်း၊ ၉ မျက်နှာအဆင်း ကြည်လင်ခြင်း၊ ၁၀ မတွေမဝေသေရခြင်း၊ ၁၁ သေသောအခါ ဗြဟ္မာပြည်သို့ရောက် တတ်ခြင်းဆိုတဲ့အကျိုးတွေဘဲဖြစ်တယ်။

ဒီအကျိုး ၁၁ ပါးကိုတခုစီ ရှင်းပြချင်ပါသေးတယ်၊

မေတ္တာကမ္မဋ္ဌာန်းကို မစီးဖြန်းဘဲ အမှတ်မဲ့နေကြတဲ့လူတွေ ဟာ မေတ္တာဓါတ်ခံနဲပါးတဲ့အတွက် သားရဲ တိရစ္ဆာန်ကိုကြောက် တတ်ကြပါတယ်။သူခိုး ဒမြစတဲ့ ရန်သူတွေကို ကြောက်တတ်ကြ ပါတယ်။ ကျီးကန်းများအစာရှာရသလို မအိပ်ခင်ကတည်းက

တထိတ်ထိတ်တလန့်လန့် ဖြစ်နေကြရပါတယ်။ အဲဒီလို လူမျိုးဟာ ရန်သူနောက်ကလိုက်နေသလို အမြဲတမ်း ဖြစ်ပြီး ပြေးရင်းလွှားရင်း ခေတ္တခဏလောက် အိပ်ရသလို ဖြစ်နေတတ်ပါတယ်။ ဒီလိုလူမျိုးဟာ အိပ်လို့ မရတာရင်လဲဖြစ်ရမယ်။ အိပ်လို့ ရပြန်ရင်လဲ ခေတ္တလောက်သာ အိပ်နိုင်ပါလိမ့်မည်။ အိပ်တဲ့အခါမှာလဲ ဟောက်ရမယ်။ အရိအရွဲ့ယိုစီးကျရမယ်။ အံကြိတ်ရမယ်။ ကျားလိုက်လို့ ပြေးရတယ်။မြွေလိုက်လို့ ပြေးရတယ်။ ဆင်လိုက်လို့ ပြေးရတယ်၊လူဆိုးတွေတက်လာတယ်။ တောင်ပေါ်က လိမ့်ကျတယ်၊သစ်ပင်ပေါ်က လိမ့်ကျတယ်ဆိုတဲ့ အိပ်မက်ဆိုးတွေကို မက်တတ်ကြပါတယ်။ နိုးတဲ့အခါမှာလဲ ကြောက်လန့် တုန်လှုပ်ပြီး နိုးတတ်ပါတယ်။

မေတ္တာကမ္မဋ္ဌာန်းစီးဖြန်းတဲ့အတွက် မေတ္တာဓါတ်ခံရှိတဲ့ လူကတော့ ဒီလိုမဟုတ်ဘူး။ မအိပ်ခင်ကတည်းက သူ့စိတ်ဟာ တည်ကြည်ရှင်လန်းနေတဲ့အတွက် ၁ ချမ်းသာစွာ အိပ်စက်ရမယ်။ ၂ ချမ်းသာစွာနိုးကြားရမယ်။ ၃ မကောင်းတဲ့ အိပ်မက်ကို ဘယ်နည်းနဲ့မှ မမြင်မက်ရဘူး။ ၄ မေတ္တာပွားနေတဲ့ လူမှာ ဒေါသမရှိနိုင်ဘူး။ ဒေါသကင်းတဲ့လူကို မချစ်တဲ့လူဟာ ဘယ်မှာရှိနိုင်မလဲ၊ လူတယောက်ဟာ တဖက်သားကရိုက်လဲ သည်းခံတာဘဲ၊ဆဲလဲသည်းခံတာဘဲဆိုရင် ဒီလူကို မြင်ရ ကြားရတဲ့ လူတွေက ချစ်ကြမလား၊ မုန်းကြမလား၊ ချစ်ကြမှာပေါ့။

## မေတ္တာတို့ပြန်လာရခြင်း

မေတ္တာရဲ့ တန်ခိုးကြောင့် တဘက်သားက မေတ္တာမရှိဘဲ မနေနိုင်တဲ့ သာဓကကြီးတခုကို ကျွန်တော် ထုတ်ပြချင်ပါတယ်။

မြတ်စွာဘုရားသည် ပရိနိဗ္ဗာန် စံဝင်လုနီး အခါ တပါး၌ ကုသိနာရုံပြည်သို့ တထောင့် နှစ်ရာ့ ငါးကျိတ်သော ရဟန်း

သံဃာတော်အပေါင်း ခြံရံလျက် ကြွတော်မူ၏။ကုသိနာရုံပြည် မလ္လာမင်းတို့သည်လည်း မိမိတို့မြို့သို့ ဘုရားသခင် ကြွတော်မူ သည်ဟု ကြားရလျှင်ပင် ကြည်ရွှင်အားရ ဝမ်းသာလှ သဖြင့် မြတ်စွာဘုရားသခင်ကို ခရီးဦးကြိုဆိုကြရန် တိုင်ပင် ကြကုန်၏။ ခရီးဦးကြိုဆိုရာသို့ မပါသောသူအား ဒဏ်ငွေအသပြာ ငါးရာ တပ်ရိုက်စတမ်း၊ ဒဏ်ငွေ ငါးရာ ဆောင်စတမ်း ဟူ၍လည်း ကတိကဝတ် ထားကြကုန်၏။

ထိုကုသိနာရုံမလ္လာမင်းများတွင် ရောဇမည်သောမလ္လာမင်း သည်ကား အရှင်အာနန္ဒာ၏ ငယ်သူငယ်ချင်းဖြစ်၏။ ယင်းသို့ ကတိကဝတ် ထားကြပြီး နောက် မြတ်စွာဘုရား သခင်လည်း နောက်ပါ တပည့်သံဃာနှင့်တကွ ကုသိနာရုံပြည်သို့ ကြွတော်မူ လာ၏။ မလ္လာမင်းတို့သည်လည်း ကတိကဝတ်ပြုထားကြသည့် အတိုင်း အားလုံးထွက်၍ ဘုရားသခင်ကို ခရီးဦး ကြိုဆိုကြကုန် ၏။

အရှင်အာနန္ဒာ၏ ငယ်သူငယ်ချင်း ရောဇမလ္လာမင်းသားက ဘုရားသခင်ကို ခရီးဦး ကြိုဆိုပြီးသည်နှင့် တပြိုင်နက် အလ္လာပ သလ္လာပ စကားပြောကြားခြင်းကို မဆိုင်းငံ့မူ၍ ဘုရားထံ တော်မှ ဖဲခွာခဲ့ပြီးလျှင် အရှင်အာနန္ဒာထံသို့ သွားရောက် ရှိခိုး ဝတ်ပြုလေ၏၊အရှင်အာနန္ဒာသည် ရောဇမလ္လာမင်းအား ဤသို့ ဝမ်းမြောက်ရန် စကားကိုမိန့်ကြားလေ၏၊ ဥဋ္ဌာဝုံခေါ်တော့ဒုံ အာဝုသောရောဇ။ အာဝုသောရောဇ၊ ဒါယကာရောဇ၊ ဤဒုံ၊ ဘုရားရှင်ကို ခင်မင်နှတ်ချို ဤသို့ခရီးဦးကြိုဆိုခြင်းသည်။ တော၊ သင့်အား။ဥဋ္ဌာဝုံခေါ၊ဥဋ္ဌာဝုံ ၊လူနတ်နိဗ္ဗာန် သုံးတန်သုခ လို ရာရကြောင်း ကောင်းမွန်မြင့်မြတ်လေစွတကား၊

ထိုအခါ ရောဇမလ္လာမင်းက အရှင်ဘုရား အရှင်ဘုရား ဟောတော်မူသည့်အတိုင်းကောင်းမှုပင်ဖြစ်သော်လည်း ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါး၌လွန်စွာမြတ်နိုးလှ၍ ခရီးဦးကြိုဆို ရသည်မဟုတ်ပါ။ ဒဏ်ငွေအသပြာ ငါးရာဆောင်ရမည်ဆို၍သာ ယခု ခရီးဦးကြိုဆိုရကြောင်းနှင့်တကွ မလ္လာမင်းတို့ စည်းဝေး တိုင်ပင် ကတိကဝတ်ထားပုံကို အကျယ်လျှောက်လေသည်။

အရှင်အာနန္ဒာသည် ရောဇမလ္လာမင်း၏ စကားကို ကြား လျှင် နားမသက်သာမခံချိလှ၍မြတ်စွာဘုရားသခင်ထံ ကြွသွား ပြီးလျှင် ဤသို့ နားတော်လျှောက်၏။ အရှင်ဘုရား ရောဇမည် သော မလ္လာမင်းသားသည် ဥစ္စာဂုဏ်ဇာတ်အားဖြင့် မြင့်မြတ် ထင်ရှားသူတယောက်ပါတည်း။ ဤသို့အားဖြင့်မြင့်မြတ်ထင်ရှား . သော လူကြီးလူကောင်းတို့၏ ဘုရားသာသနာကို ကြည်ညိုခြင်း သည် လွန်မင်းစွာအကျိုးများလှပါ၏။ သာသနာ့ကြက်သရေ ဖြစ်ပါ၏။ ထိုသူတို့မှာလည်း လောကုတ္တရာဂုဏ်တက်၍ အကျိုး အဆက်ဆက်ဖြစ်ထွန်းဘွယ်ရှိပါသည်။ ထိုကြောင့်မြတ်စွာဘုရား သည် ရောဇမလ္လာမင်း သန္တာန်၌ သာသနာတော်ကို ကြည်ညို သော သဒ္ဓါတရားဖြစ်ပေါ်လာအောင် တစုံတခုသော နည်းနာ ဥပါယ်တမျဉ်ဖြင့် ပြုနိုင်ပါလျှင် ကောင်းလေစွ၊ ပြုတော်မူပါ ဘုရားဟု လျှောက်လေ၏။

မြတ်စွာဘုရားသာ ချစ်သားအာနန္ဒာ ရောဇမလ္လာမင်း သာ သနာတော်ကို ကြည်ညိုလာအောင်ပြုလုပ်မှုသည်း ခဲယဉ်းလှသည် မဟုတ်ပေ၊ အလွယ်မျှသာဖြစ်ပေသည်။ အသင် ကြည့်လော့ဟု မိန့်တော်မူ၍ ထိုခဏချင်း မလ္လာမင်းရောဇကို သြမိသ မေတ္တာ

ဖြင့် ပြန့်နှံ့စေပြီးလျှင် (ဩဒိဿမေတ္တာ ပို့တော်မူပြီးလျှင်) နေရာမှ ထတော်မူ၍ သီတင်းသုံးနေမြဲ ကျောင်းတွင်းသို့ ဝင်တော်မူ၏။

ရောဇမလ္လာမင်းသည် မြတ်စွာဘုရားသခင် ပို့သတော်မူသော ဩဒိဿမေတ္တာဖြင့် တွေ့ထိအပ်သည်ဖြစ်၍ ဘုရားရှင်ဩဒိဿမေတ္တာပို့ပြီးသည်နှင့်တပြိုင်နက် လောကီဥပမာအားဖြင့် နို့စို့နွားငယ်ရှိသော အမိနွားမသည် သားနွားငယ်နောက်သို့ တကောက်ကောက်လိုက်ရှာသကဲ့သို့ ရုတ်ခြည်းထ၍ ဘုရားရှိရာသို့ လိုက်လေ၏။ လိုက်၍ ဘုရားကို မတွေ့လျှင် ကျောင်း တကျောင်းမှ တကျောင်း၊ ပရိဝုဏ်တခုမှ ပရိဝုဏ်တခုသို့ တက်ချည်ဆင်းချည် ဘုရားရှင်အဘယ်မှာနည်းဟု ရဟန်းတို့ကို မေး၍လိုက်၏။ ရဟန်းတို့လည်း ဒါယကာ ရောဇ၊ ဤအရပ်မှ ဤလမ်းကို လျှောက်လျှင် တံခါးပိတ်ထားသော ကျောင်းတွေ့လိမ့်မည်။ ထိုကျောင်းမှာ မြတ်စွာဘုရားသခင် သီတင်း သုံးတော်မူသည်။ ဘုရားရှင် ဖူးမြင်လိုလျှင် ဖြည်းဖြည်း သာသာ အသံ မထွက် ရအောင်သွား၍ တံခါး မုခ်သို့ ရောက်သောအခါမှ ချောင်းဟန့်၍ အသံပြုပြီး လျှင် တံခါးရွက်ကိုခေါက်လော့ မြတ်စွာဘုရားသည် တံခါးကိုဖွင့်၍ သင်နှင့် အတွေ့ခံလိမ့်မည်ဟု ညွှန်ကြား လိုက်ကြလေ၏။

ယင်းသို့ ညွှန်ကြားသည့်အတိုင်း ရောဇမလ္လာမင်း လိုက်ရာ ဘုရားရှင်နှင့်တွေ့၍ ရိုသေစွာ ရှိခိုးပြီးလျှင် အပြစ် ခြောက် ရပ်လွတ်လပ်သောနေရာ၌ ထိုင်၍ တရားတော်မြတ်ကို ကြားနာ၏။ ဘုရားရှင်လည်း ဒါနကထာ သီလကထာစသော ဟောပြောတော်မူမြဲအစဉ်အတိုင်း တရားစကားကို ဟောကြားတော်မူ၏။

## နတ်များလဲချစ်

(၅) မေတ္တာပွားနေတဲ့လူကို လူအချင်းချင်းသာမက နတ်တွေကလဲ ချစ်တယ်။ ထင်ရှားတဲ့သာဓကတခုကို ထုတ်ပြချင်ပါတယ်။

မြတ်စွာဘုရား ပရိနိဗ္ဗာန် စံလွန်တော်မူပြီးနောက် သီဟိုဠ်ကျွန်း၌ သာသနာပွင့်လင်း သာယာစဉ်အခါ ပါဋလိပုတ်ပြည်သား ဝိသာခမည်သော ဒါယကာသည် ဤသို့သော သတင်းစကားကိုကြား၏၊ ဘယ်သို့ကြားသနည်းဟူမူ သီဟိုဠ်ကျွန်းသည် စေတီအစဉ်တို့ဖြင့် တပြောင်ပြောင် တောက်ပ၏။ အလိုရှိတိုင်း အလိုရှိတိုင်းသောနေရာ၌ နေခြင်းငှါ စွမ်းနိုင်၏။ ဥတု လျောက်ပတ်ခြင်း၊ ကျောင်းလျောက်ပတ်ခြင်း၊ ပုဂ္ဂိုလ်လျောက်ပတ်ခြင်း၊ တရားနာရဘို့လျောက်ပတ်ခြင်းဟူ၍ အလုံးစုံသောလျောက်ပတ်ခြင်းကို ရနိုင်၏ဟူ၍ ကြား၏။

ထိုဝိသာခ ဒါယကာသည် စည်းစိမ်ဥစ္စာတို့ကို သားမယားတို့အား အပ်နှင်း၍ သင်္ဘောစီးနင်းအံ့သောငှါ အသပြာတကျပ်ကိုသာ ပုဆိုးမှာချည်၍ အိမ်မှထွက်လာခဲ့ရာ သင်္ဘောဆိပ်သို့ ရောက်သောအခါ သင်္ဘောမကြုံသဖြင့် တလမျှ ဆိုင်းနေရ၏။ ထိုသို့ဆိုင်း၍နေရစဉ်ပင် ကုန် ကူးသန်းရောင်းဝယ်ခြင်း၌ နားလည် ကျွမ်းကျင်သည် အားလျော်စွာ ကုန် ကူးသန်းရောင်းဝယ်ခြင်းကိုပြုရာ အသပြာတထောင်မျှ စုဆောင်းမိ၏။

ထိုနောက်သင်္ဘောကြုံ၍ အစဉ်အတိုင်း သီဟိုဠ်ကျွန်းသို့သွား၍ မဟာဝိဟာရကျောင်းတိုက်ကြီးသို့ ရောက်သောအခါ ရဟန်းပြုဘို့ရန် ခွင့်တောင်းလျှောက်ထားလျှင် အခွင့်ပြုတော်မူကြ၍ ဥပသမ္ပဒကံဆောင်ရန် (ရဟန်းခံရန်)သိမ်သို့ သွားကြသော

အခါ ဝိသာခ၏ ခါးပိုက်ထဲမှ ငွေ ၁၀၀ဝိ ထုပ်သည် မြေသို့ကျ၏။ ထိုအခါ ရဟန်းတော်မြတ်တို့က ဒါယကာ အသို့နည်းဟု မေးလတ်သော် အသပြာ တထောင်ထုပ်ပါဘုရားဟု လျှောက်လျှင် အသင်ဒါယကာ ယခုကဲ့ရင်ပါလေ နောင်ရဟန်းဖြစ်ပြီးသောကာလ စီရင်ခွင့်မရတော့ပြီဟု မိန့်တော်မူကုန်ကြသကာလ ရဟန်းခံရာသိမ်ရင်ပြင်သို့ ရောက်လာသော ဒါယကာများ လက်ချည်း ပြန်မသွားကြပါစေနှင့်ဟု နှလုံးပြု၍ အသပြာ တထောင်ထုပ်ကိုဖြေ၍ပေဖြန့်မိန်းစွန့်ကြဲလိုက်ပြီးမှ ရဟန်းပြုလေ၏။ ငါးဝါရသောအခါ ဒွေမာတိကာကို လေ့ကျက်၍ ပဝါရဏာပြုပြီးလျှင် မိမိအား လျှောက်ပတ်သော ကမ္မဋ္ဌာန်းတခုကိုယူ၍ တကျောင်း တကျောင်း၌ လေးလမျှသာ နေခြင်းကို ပြုလျက် လှည့်လည်၍ စိတ္တလတောင်သို့ သွားလတ်သော် ခရီးနှစ်ခွသို့ရောက်၍ ဤနေရာသည် လမ်းလေလော၊ လမ်းမဟုတ်သလောဟု စဉ်းစားလျက်ရပ်၏။ ထိုအခါ မတောင်စောင့်နတ်က လက်ကိုဆန့်လျက် ဤသည်ကား အရှင်မြတ် ကြွတော်မူလိုသော လမ်းပါဘုရားဟု လမ်းကိုညွှန်ပြ၏။ ထိုဝိသာခ မထေရ်သည် စိတ္တလတောင်သို့ သွား၍ လေးလ ကာလမျှ နေပြီးသော် မိုးသောက်သောအခါ သွားအံ့သောစိတ်ကိုဖြစ်စေ၍ ကျိန်းစက်တော်မူ၏။

## မေတ္တာတော်အာနုဘော်

ထိုသောအခါ စကြံဦး သပြေပင်၌ စောင့်သောနတ်သည် ကျောက်ဖျာအပြင်၌ ရပ်လျက်ငိုး၏၊ မထေရ်မြတ်က သင်အဘယ်သူနည်းဟုမေးလျှင် ဘုရားတပည့်တော် သပြေပင်စောင့်နတ်ပါဘုရားဟုလျှောက်ထား၏၊ အဘယ်ကြောင့် ငိုသနည်းဟု မေး

တော်မူပြန်သောအခါ အရှင်ဘုရားသည် ဤအရပ်မှ ကြွတော်မူမည်ကို စိုးရိမ်သောကြောင့်ပါဘုရားဟု လျှောက်လေ၏။ ငါ ဤအရပ်မှာနေခြင်းကြောင့်အသင်တို့မှာအဘယ်သို့သောအကျိုးကိုခံစားရလေသနည်းဟု မိန့်တော်မူလျှင် အရှင်ဘုရား၏အရပ်၌ သီတင်းသုံးနေတော်မူသည့်အတွက် အရှင်ဘုရား၏ မေတ္တာတော်အာနုဘော်အားဖြင့် နတ်တို့သည် အချင်းချင်းချစ်ခင်မြတ်နိုးကြကုန်၏။ အလွန်လျှင် အေးချမ်းသာယာပါသည်။ အရှင်ဘုရားကြွသွားတော်မူပါလျှင် ရှေးကကဲ့သို့ပင် ခိုက်ရန်ဒေါသဖြစ်ကုန်၍ အေးလူချမ်းမြေ့စွာ နေကြရတော့မည် မဟုတ်ပါဘုရားဟု လျှောက်ထားလေသော် သို့ဖြစ်လျှင်ကောင်းပြီဟု မိန့်ဆိုတော်မူ၍ နောက်ထပ်လေးလပတ်လုံး သီတင်းသုံး၍လေးလပြည့်သောအခါ ရှေးအတူကြွသွားလိုသောစိတ်ကိုဖြစ်စေတော်မူပြန်၏။သပြေပင်စောင့်နတ်သည်လည်း ရှေးအတူငိုပြန်၏၊ဤသို့သော နည်းအားဖြင့် တိုင်သော မထေရ်မြတ်သည် ဤအရပ်တွင်ပင် ပဋိနိဗ္ဗာန်စံလွန်သည့်တိုင်အောင် ဆက်လက်၍ သီတင်းသုံးတော်မူရ၏၊

။ မေတ္တာပွားတဲ့ လူတွေကိုနတ်တွေက ချစ်မြတ်နိုးရုံသာ မကသေးဘူး၊ တတ်နိုင်သလောက်လဲ စောင့်ရှောက်ကြသေးတယ်၊ထင်ရှားတဲ့သာဓကတခုကို ကျွန်တော် ထုတ်ပြချင်ပါသေးတယ်။

တရံရောအခါ မြတ်စွာဘုရားသခင် ကိုယ်တော်မြတ်သည် သာဝတ္ထိပြည် ဇေတဝန်ရွှေကျောင်းတော်၌ ကိန်းအောင်းစံနေတော်မူစဉ် အထူးထူးသော တိုင်းပြည်မှလာကြကုန်သောရဟန်းတို့သည် ဝါဆိုလုနီးသောအခါ မြတ်စွာဘုရားအထံမှကမ္မဋ္ဌာန်း

ကိုယူကြ၍ ထိုထိုသော အရပ်မျက်နှာတို့သို့ ဝါကပ်ရန် ကြွသွားကြကုန်၏၊ ထိုအခါ ငါးရာသောရဟန်းတို့သည် မြတ်စွာဘုရားအထံမှကမ္မဋ္ဌာန်းကိုယူ၍မိမိတို့အားလျောက်ပတ်သောကျောင်း လျောက်ပတ်သော ဆွမ်းခံရွာကို ရှာမှီးကြသည်ရှိသော် ပစ္စန္တရာဇ်အရပ်၌ ဟိမဝန္တာနှင့် တစပ်ထည်းဖြစ်၍ပတ္တမြားအပြင်နှင့်တူသော အေးသော တခဲနက်သောအရပ်ရှိသော ညိုသော တောအုပ်ဖြင့်တန်းဆာဆင်အပ်သော ပုလဲအပြင်၊ ငွေပြားအပြင်ကဲ့သို့သော သဲဖြင့်ပြွမ်းသော မြေအဘို့ရှိသော အေးကြည် သန့်ရှင်းသော ရေလည်းရှိသော အိုင်တို့ဖြင့်ဝန်းရံလျက် ရှိသောတောင်ကိုတွေ့မြင်ကြကုန်၏။

ယင်းသို့တွေ့မြင်သောအခါ ငါးရာသော ရဟန်းတော် မြတ်တို့သည် ထိုအရပ်၌ တည့်အိပ်၍ နိုးသောကာလျှင် ကိုယ်လက်သုတ်သင်၍ တောင်၏ အနီးဖြစ်သော ရွာတရွာသို့ ဆွမ်းခံဝင်တော်မူကြကုန်၏။ ထိုရွာသည် အိမ်ခြေဟထောင်ရှိ၏။ ရွာသူရွာသားတို့သည် သဒ္ဓါတရားရှိကြကုန်၏၊ ကြည်ညိုကြကုန်၏၊ ထိုဒါယကာတို့သည် ပစ္စန္တရာဇ်အရပ်၌ ရဟန်းတော်များကို ဖူးမျှော်ခွင့်ရခဲ့သောကြောင့် ရဟန်းတော်များကို ဖူးမျှော်ရသောအခါ လွန်စွာဝမ်းမြောက်ခြင်းနှစ်သက်ခြင်းရှိကြကုန်သည်ဖြစ်၍ ထိုရဟန်းတော်မြတ်တို့ကို ဆွမ်းပြုစုလုပ်ကျွေးပြီးလျှင် ဤအရပ်၌ဝါတွင်း သုံး လ ပတ် လုံး သီ တင်း သုံး တော် မူ ကြ ပါ မည့်အကြောင်းကို တောင်းပန်လျှောက်ထားကြရာ အခွင့်ပြုတော်မူကြသဖြင့်ကမ္မဋ္ဌာန်းကျောင်းငါးရာ ဆောက်လုပ်ပြီးလျှင်ညောင်စောင်းအင်းပျဉ်၊ သောက်ရေအိုး၊ သုံးရေအိုး အစ ရှိသောကျောင်းအသုံးအဆောင်တို့ကို စီရင်ကြကုန်၏။

နှစ်ရက်မြောက်သောနေ့၌ ရဟန်းတော်မြတ်တို့သည် တပါး

သောရွာသို့ ဆွမ်းခံကြွဝင်တော်မူကြကုန်၏။ ဒါယကာတို့သည် ယခင်ဒါယကာများအတူ ဆွမ်းကျွေးမွေးလှူဒါန်း၍ ဝါဆိုဘို့ရန် တောင်းပန်လျှောက်ထားကြကုန်၏၊ ရဟန်းတော် များတို့သည် လည်း ဒါယကာတို့တောင်းပန်သည်ကို ခွင့်ပြု၍ ထိုတောအုပ်သို့ ဝင်ပြီးလျှင် အလုံးစုံသောညဉ့်ပတ်လုံး တရားကို အားထုတ်ကြ ကုန်လျက်သစ်ပင်ရင်းသို့ကပ်ရောက်ထိုင်နေကြပြီးလျှင်ကမ္မဋ္ဌာန်း ပွားစီးခြင်းအမှုကိုပြုကြကုန်၏။

သီလရှိသော ရဟန်းတော်မြတ်တို့၏ တန်ခိုး အာနု ဘော် တော်ကြောင့်နတ်တို့သည်မိမိတို့ဗိမာန်မှဆင်း၍ ခလေး သူငယ် များကို ယူပြီးလျှင် ထိုထိုသောအရပ်သို့လှည့်ပတ်၍နေကြကုန်၏။ ဥပမာဆိုသည်ရှိသော် ဘုရင်မင်းမြတ်၊ အမတ်ကြီး၊ စစ်သူကြီး စသည်တို့သည် ပစ္စန္တရာဇ်ကိုချေငြှမ်း သွားရောက်ကြသောအခါ တည်းခိုနေထိုင်ရန် နန်းတော် အိမ်ကောင်း အသင့်မရှိသဖြင့် တောသူတောင်သားတို့၏ အိမ်၌ပင်ခေတ္တခဏမျှတည်းခိုနေထိုင် ကြသောအခါတောသူတောင်သားတို့မှာ မိမိတို့အိမ်မှရှောင်ရှား တိမ်းလွှဲ၍နေရသဖြင့် ထိုဘုရင်မင်းမြတ် အမတ်စစ်သူကြီးတို့သည် မည်သည့်အခါပြန်ပါမည်နည်းဟူ၍ အဝေးမှသာလျှင် စောင့် စားကြည့်ရှုနေကြကုန်ဘိသကဲ့သို့ ထိုနတ်တို့သည်လည်း မိမိတို့ ဗိမာန်ကိုစွန့်၍ ထိုအရပ်ဤအရပ်သို့ လှည့်လည်ကြပြီးလျှင် ထို ရဟန်းတော်တို့သည်မည်သည့်အခါ၌ကြွရောက်ကြပါမည်နည်း ဟူ၍ ကြည့်ရှုငံ့လင့်၍သာလျှင် နေကြကုန်၏။

## ကြောက်ရွံ့အောင်လုပ်ခြင်း

ထိုနောက်မှ နတ်တို့သည် စည်းဝေးပြီးလျှင် ရဟန်းတို့သည် ဝါဆိုနေ့သို့ပင်ရောက်၍ ဝါကပ်ကြကုန်ပြီး မချွတ်လျှင် ဤဝါ

တွင်း သုံးလပတ်လုံး ဤအရပ်၌ပင် နေကြကုန်လတံ့။ ငါတို့သည်လည်း ထိုမျှလောက်ကြာမြင့်အောင် ခလေးသူငယ်များကိုလက်ဆွဲလျက် ဗိမာန်မှဆင်းသက်၍ နေထိုင်နိုင်ကြမည်မဟုတ်ချေ။ ယခုအခါငါတို့သည် ရဟန်းတို့အား ကြောက်ဘွယ်သော အာရုံကိုပြ၍ချောက်လှန့်ကြကုန်အံ့ဟု တိုင်ပင်ကြ၍တပါးတပါးစီခွဲခြား၍ တရားအားထုတ်၍ နေတော်မူကြကုန်သော ရဟန်းတော်မြတ်တို့အား ကြောက်လန့်တုန်လှုပ်ဘွယ်သောအာရုံကိုဖန်ဆင်း၍ ရှေ့မှရပ်ကုန်ကြ၏။ ကြောက်ရွံ့ထိတ်လန့်ဘွယ်အသံတို့ကိုပြုကြကုန်၏။

ထိုသို့ကြောက်လန့်တုန်လှုပ်ဘွယ်သော ရူပါရုံ သဒ္ဒါရုံတို့ကို မြင်ရကြားရသော ရဟန်းတော်တို့၏ စိတ်နှလုံးသည် တုန်လှုပ်ကြကုန်၏၊ မကောင်းသောအဆင်းငှ့်ကုန်ကြ၏၊ဖြော့တော့သော အဆင်းရှိကြကုန်၏၊ စိတ်နှလုံးတည်ငြိမ်ခြင်းငှါ အားထုတ်ခွင့် ပြုပြင်ခွင့်မရကြကုန်၊ ကြောက်ခြင်းကြောင့် အဖန်တလဲလဲ ထိတ်လန့်ကုန်သော ရဟန်းတော်မြတ်တို့၏သတိသည် မေ့လျော့ခြင်း ။ သို့ရောက်ကုန်ကြ၏၊ သတိမေ့လျော့သောအခါမကောင်းသော အနံ့တို့ကို နံစေကုန်၏၊ထိုမကောင်းသော အနံ့ဆိုးတို့ကြောင့် ဦးနှောက်တို့သည် ဆုပ်နယ်သကဲ့သို့ဖြစ်၍ ပြင်းစွာခေါင်းခဲသော ဝေဒနာတို့သည် ဖြစ်ပေါ်လာကြကုန်၏၊ ထိုသို့သောအကြောင်း , ခြင်းရာကို ကြောက်လန့်ကြမည်စိုး၍ တပါးသည် တပါးအား မပြောကြားကြကုန်။

တနေ့သောအခါ မထေရ်ကြီးထံသို့ ဆည်းကပ်ခစားကြရာတွင်မှ မထေရ်ကြီးမေးမြန်းသဖြင့် ထိုအကြောင်းကို လျှောက်ကြားကြကုန်၏။ ထိုအခါ သံဃာ့ဦးစီးအကြီးအမှူး ဖြစ်တော်မူ

သော မထေရ်ကြီးက ငါ့ရှင်တို့ ငါတို့အား ဤကျောင်းသည် မလျောက်ပတ်ချေ၊လာကြကုန်၊သွားကြကုန်စို့အံ့၊ထိုအကြောင်း ကိုလည်း မြတ်စွာဘုရားအား လျှောက်ထားကြကုန်စို့အံ့ ဟူ၍ မိန့်ကြားတော်မူလျှင် မသေရ်ငယ်အပေါင်းတို့သည် ကောင်းပါ ပြီ အရှင်ဘုရား ဟု မထေရ်ကြီး၏ စကား အတိုင်းလိုက်နာ၀န်ခံ ကြကုန်ပြီးလျှင် ကျောင်းအိပ်ရာနေရာတို့ကို သိမ်းဆည်း၍ ဒါယကာတို့၌တွယ်တာခဲ့လမ်းခြင်းမရှိမူ၍တစုံတယောက်သော ဒါယကာတို့မျှမပန်ကြားမူ၍ မိမိတို့၏ သပိတ်သင်္ကန်းတို့ကိုသာ ယူလျက် သာဝတ္ထိပြည်ဇေတဝန်ကျောင်းသို့ ပြန်လာကြ၍မြတ် စွာ ဘုရားသခင်၏ ထံတော်သို့ရောက်ကြကုန်၏။

## မေတ္တသုတ်ပရိတ်တော်

မြတ်စွာဘုရားသည် ထိုရဟန်းတို့ကို တွေ့မြင်တော်မူသော အခါ ချစ်သားရဟန်းတို့ ပါကွင်း၌ ဒေသစာရီ မလှည့်လည်ရ ဟူ၍ သိက္ခာပုဒ်ကို ငါပညတ်တော်မူပါလျက် ဘယ်အတွက် ကြောင့် ဒေသစာရီ လှည့်လည်ကြကုန်သနည်းဟူ၍ မေးမြန်း တော်မူသောကာလ၊ ထိုအလုံးစုံသော အကြောင်းကို ပြန်ကြား လျှောက်ထားကြကုန်၏၊ထိုအခါမြတ်စွာဘုရားသခင်ကိုယ်တော် မြတ်က ချစ်သားရဟန်းတို့ လိုနေရာမှလွဲ၍ သင်တို့အားလျောက် ပတ်သောနေရာကို ဇမ္ဗူဒိပ်ကျွန်းနှင့်မျှ ငါဘုရား မြင်တော်မမူဟူ၍ မိန့်ကြားတော်မူပြီးလျှင် ချစ်သာ ရဟန်းတို့ ထိုအရပ်တို့သာ လျှင် ပြန်သွားကြကုန်လော့၊ ထိုအရပ်သို့ ပြန်သော အခါ (ဤမေတ္တသုတ်ပရိတ်တော်ကို) သင်ကြားမှတ်ယူ၍ သွားကုန် လော့ဟူ၍ မိန့်တော်မူပြီးနောက် (မေတ္တသုတ်ပရိတ်တော်ကို) ဟောကြားတော်မူလိုက်၏။ ဟောကြားသင်ပြတော်မူပြီးလျှင်

ချစ်သားရဟန်းတို့ ထိုမေတ္တာသုတ်ကို တလလျှင် လေးကြိမ် စည်းဝေး၍ ရွတ်ဘတ်သရဇ္ဈာယ်ကြ၊ ဆွေးနွေးတိုင်ပင်ကြကုန်လော၊ နတ်တို့သည် သင်ချစ်သားတို့အား ကြောက်ဘွယ် လန့်ဘွယ် အာရုံကို မပြနိုင်ကြမူ၍ သင်တို့၏ အကျိုးစီးပွားကိုပင် လိုလားတော်မူကြကုန်လတံ့ဟူ၍မှာထား မိန့်မြွက်တော်မူလိုက်၏။

ထိုရဟန်းတို့သည် မြတ်စွာဘုရားစကားတော်ကို ဝန်ခံ လိုက်နာ၍ မြတ်စွာဘုရားအား ရှိခိုးဦးတိုက် လက်ျာရစ် လှည့်ပိုက်ပြီးလျှင် ယခင်တောအုပ်ရှိရာ အရပ်သို့ပင် ကြွတော်မူကြ၍ ဘုရားကိုယ်တော်မြတ် မိန့်မှာတော်မူသည့်အတိုင်း၊မေတ္တာသုတ်ကို ရွတ်ကြား၍ မေတ္တာ ဗြဟ္မဝိဟာရ တရားကို ပွားများ အားထုတ်ကြကုန်၏၊တိုသို့မေတ္တာပွားများသောအခါမှစ၍ နတ်တို့သည် ဤအရှင်ကောင်း အရှင်မြတ်တို့သည် ငါတို့၏အကျိုးစီးပွားကို လိုလားတော်မူကြသော အရှင်ကောင်း အရှင်မြတ်တွေပါတကားဟု ဝမ်းမြောက်ကြည်ရွှင်စွာ ကျောင်းကိုတမြက်လှဲခြင်း၊ရေနွေးကျိုခြင်း၊ ခြေဆုပ်လက်နယ်ပြုခြင်းစသည်တို့ကို ပြုလုပ်လျက် ထိုရဟန်းတို့ကို အထူးအားဖြင့် စောင့်ရှောက်ကြကုန်၏။ ရဟန်းတော်မြတ်တို့သည်လည်း မေတ္တာဗြဟ္မဝိဟာရတရားကို အခြေခံပြုလျက် ဝိပဿနာကို ဆက်လက်ပွားများကြလေလျှင် ထိုပေါ်တွင်း၌ပင်လျှင် အရဟတ္တဖိုလ်သို့ ရောက်ကြကုန်ကြ၏။

## အဆိပ်မသင့် မီးမလောင်

၇။ မေတ္တာကို တကယ်အားစိုက်၍ ပွားများနိုင်မယ် ဆိုရင် ပွားများတဲ့လူကို မီးမလောင်နိုင်ပါဘူး။ အဆိပ်မသင့်နိုင်ပါဘူး။ လက်နက်မစူးရှနိုင်ပါဘူး။

လူကြီးမင်းများ၏ ပြည့်တန်ဆာမ သီရိမာနဲ့ ဥတ္တရာဆိုတဲ့

ဥပါသိကာမတို့ရဲ့ အကြောင်းကို ကြားဘူးကြမှာပေါ့၊ သီရိမာဟာ ကျိက်ကျိက်ဆူနေတဲ့ ထောပတ်တွေကို ဥတ္တရာ အပေါ် လောင်းချပေမဲ့ ဥတ္တရာက မေတ္တာပွားနေတဲ့အတွက် ထောပတ်ဆီပူဟာ ရေအေးလိုဖြစ်သွားရပါတယ်။

ဂ။ လူတယောက်ဟာဆွေမျိုးပျက်စီးခြင်း ဥစ္စာပျက်စီးခြင်း ရောဂါနှိပ်စက်ခြင်းအစရှိတဲ့ စိတ်ဖေါက်စရာအမှုတခုနဲ့ရင်ဆိုင်တွေ့ရတဲ့အခါ စိုးရိမ်ခြင်း ပူဆွေးခြင်း ဆင်းရဲခြင်း ပင်ပန်းခြင်း ဆိုတဲ့ ဒေါသရဲ့အခြံအရံဖြစ်တဲ့တရားတွေပေါ်လာကြပါတယ်၊ ဒီလိုပေါ်လာတဲ့အခါ စိတ်ဟာ ပျံ့လွင့်သွားပါတယ်။ ဒီလိုစိတ်ပျံ့လွင့်တဲ့အခါမှာ အကောင်းဆုံး ဆေးစာ မေတ္တာ ပွားတာဘဲဖြစ်တယ်။အဲဒါကြောင့် မေတ္တာဗြဟ္မဝိဟာရတရားသည် ဒေါသကိုပယ်ဖျောက်နိုင်သကဲ့သို့ အခြား တစုံတခုသော တရားကိုငါဘုရားမြင်တော်မမူလို့ကော်ဥတ္တရပါဠိတော်မှာမြတ်စွာဘုရားသခင် ဟောကြားထားတော်မူခဲ့ပါတယ်။

ဃ။ မေတ္တာပွားတဲ့လူဟာ ဒေါသကင်းစင်တဲ့အတွက် သူရဲ့မျက်နှာအဆင်းဟာ ထုန်းသီးမှည့်ပမာ သန့်ရှင်းကြည်လင်နေပါတယ်။ သဗ္ဗဝါတဦးရဲ့ အဆင်းဟာမလှဘဲ ညစ်နွမ်း ဆိုးဝါးတာဟာ တခြားကြောင့်မဟုတ်ဘူး ဒေါသကြောင့်ဘဲ။

ဒေါသကြီးတဲ့လူတယောက်မှာ သူ့ရန်သူတွေ အလိုရှိတဲ့ အတိုင်း အပြစ် ၇ မျိုးဖြစ်နိုင်တယ်။ဒီအပြစ်တွေကတော့အောက်ပါအတိုင်းဖြစ်ပါတယ်။

၁။ အမျက်ထွက်သောပုဂ္ဂိုလ် သည် မည်ကဲ့သို့ပင်ရေချိုးခြင်း ပန်းပန်ခြင်း၊နံ့သာလိမ်းခြင်း အဝတ်ကောင်း အဘိုးတန် တို့ကို ဝတ်ဆင်ခြင်းဖြင့် မိမိကိုယ်ကို လှပတင့်တယ်အောင် ပြုပြင် ဆင်

ယင်သော်လည်း မျက်နှာမှာ အောင့်သိုးသိုးဖြစ်၍ အကြည့်ဆိုး အရုပ်ဆိုးတော့သည်သာတည်း။

## ချမ်းသာသုခမရနိုင်

၂။ အမျက်ထွက်၍ အမျက်ဒေါသဖြင့် နှိပ်စက်အပ်သောသူသည် လက်လေးသစ်အမွေးရှည်သောအခင်း ဖြူသော အခင်း ပန်းတို့ဖြင့်တခဲနက်ပြီးသောအခင်း ကြောင် ဝံပိုက်ရေဖြင့် ပြုအပ်သော မြတ်သောအခင်းထက်၌ ဗိတာန်မျက်နှာကြက်ပါသော နီသော ခြေအုံးခေါင်းအုံးရှိသောပလ္လင်ပေါ်၌ အိပ်ရသော်လည်း မည်သည့်အခါမျှ ချမ်းသာသုခကိုမရနိုင်။

၃။ အမျက်ထွက်၍ အမျက်ဒေါသဖြင့် နှိပ်စက်အပ်သောသူသည် ကောင်းသောအကျိုးကိုလည်း မကောင်းသော အပြစ်ဟူ၍ထင်မှတ်တတ်၏။မကောင်းသောအပြစ်ကိုလည်း ကောင်းသောအကျိုးဟု ထင်မှတ်တတ်၏။ ဤသို့လျှင် အကျိုးကိုအပြစ် အပြစ်ကိုအကျိုးဟူ၍ ထင်မှတ်တတ်သည့်အတွက် ထိုသူပြုလုပ် ဆောင်ရွက်သော အမှုအလုပ်တို့သည် ရှည်မြင့်စွာသောကာလပတ်လုံး အကျိုးမဖြစ် အပြစ်သာလျှင်ဖြစ်၍ ပျက်စီးဆုတ်ယုတ် တတ်ကုန်၏။

၄။ အမျက်ထွက်၍ အမျက်ဖြင့် နှိပ်စက်ခြင်းကို ခံရသောသူသည် ရာဇဝတ်မင်းဒဏ်သင့်သော အမှုအလုပ်တို့ကို ပြုလုပ် မိတတ်သဖြင့် လုံ့လဝီရိယကြောင့် ဖြစ်ကုန်သော လက်ရုံးအားဖြင့် ဆည်းပူးအပ်ကုန်သော ချွေးဒီးဒီးယိုစီးမှ ရအပ်ကုန်သော တရားနှင့်ယှဉ်ကုန်သော တရားသဖြင့်ရအပ်ကုန်သော ဥစ္စာစီးပွားတို့ကို မင်းတို့သည် မိမိတို့မင်းဘဏ္ဍာအဖြစ်ဖြင့် သွတ်သွင်းခြင်းကို ခံသူရ၏။

၅။ အမျက်ထွက်၍ အမျက်ဖြင့်နှိပ်စက်ခြင်းကိုခံယူရသောသူသည် မမေ့မလျော့ခြင်းကြောင့် အကြင် အခြံအရံ အကျော်အစောကိုရ၏၊ ထိုအခြံအရံ အကျော် အစောမှသည် ရွေ့လျော၍ ကျတတ်၏။

၆။ အမျက်ထွက်၍ အမျက်ဖြင့် နှိပ်စက်ခြင်းကို ခံရသောသူကို အဆွေအမျိုး၊ အခဆွေခင်ပွန်း၊ ချစ်ကျွမ်းဝင်သောသူတို့သည် ဖဲကြဉ်၍သွားတတ်ကုန်၏။

၇။ အမျက်ထွက်၍ အမျက်ဖြင့် နှိပ်စက် အပ်သော သူသည် ကိုယ်ဖြင့်မကောင်းမှုကိုပြုတတ်၏၊ နှုတ်ဖြင့် မကောင်းမှုကိုပြုတတ်၏၊ စိတ်ဖြင့်မကောင်းမှုကိုပြုတတ်၏။ ကိုယ်ဖြင့်မကောင်းမှုကိုပြု၍၊ နှုတ်ဖြင့်မကောင်းမှုကိုပြု၍၊ စိတ်ဖြင့်မကောင်းမှုကိုပြု၍ သေသည်၏အခြားမဲ့၌ အပါယ်လေးပါးသို့ရောက်တတ်၏။

## သိမ်သိမ်မွေ့မွေ့သေရခြင်း

၁၀။ သေခါနီးလျှင်အချို့လူတွေဟာ အိပ်သောယောက်ျားနိုးသော်လားဆိုသလို သိမ်သိမ် မွေ့မွေ့ အေးအေး လူလူနဲ့ သေကြရတယ်၊ တချို့လူတွေကျတော့ သေခါနီး ဝက်လိုနွားလို အော်ပြီး သေကြရတယ်။ အဲဒီလိုသေတာမျိုးတွေကို လူကြီးမင်းတွေ ကြားဘူးကြမှာပါဘဲ။ သိမ်သိမ်မွေ့မွေ့ အေးအေးလူလူနဲ့ သေကြရတဲ့လူတွေက မေတ္တာစိတ်နဲ့ယှဉ်ပြီး သေကြတဲ့ လူတွေဖြစ်တယ်။ တွေဝေအော်ဟစ်ပြီး သေကြရတဲ့ လူတွေကတော့ ဒေါသတွေ၊ လောဘတွေခြံရံပြီး သေကြရတဲ့ လူတွေဖြစ်တယ်။

၁၁။ မေတ္တာရဲ့တန်ခိုးဟာ ပွားများတဲ့လူကို ဗြဟ္မာဘုံအထိ ရောက်အောင် အကျိုးပေးနိုင်တယ်။

မေတ္တာပွားနည်းကို ကျွန်တော် ပြောပြပါတော့မယ်။ မေတ္တာကမ္မဋ္ဌာန်း စပြီးပွားများတဲ့အခါ၊ ၁ ဘယ်လိုပုဂ္ဂိုလ်မျိုးအပေါ်

မှာ စပြီးပွားများရမည်။ ၂ ဘယ်လိုပုဂ္ဂိုလ်မျိုးနဲ့ မစရဘူးဆို တာကို ခွဲခွဲခြား ခြားသိဘို့လိုပါတယ်။ (က) မိမိက မချစ် မနှစ် သက်တဲ့လူ၊ (ခ) အင်မတန်ချစ်ခင်တဲ့သူငယ်ချင်း။ (ဂ) မိမိက မချစ်မမုန်းတဲ့ သာမန်လူ (ဃ) မိမိရဲ့ရန်သူ။

အဲဒီလူစားလေးစားကို မေတ္တာပွားစမှာ ရှောင်ရမယ်၊ ဘာ ဖြစ်လို့ရှောင်ရမယ်ဆိုတာကို ရှင်းပြပါ့မယ်။

မိမိမချစ်မနှစ်သက်တဲ့လူကိုစပြီး မေတ္တာပွားရင် မေတ္တာစိတ် ဖြစ်ဘို့ ခဲယဉ်းလိမ့်မယ်။

အင်မတန်ချစ်တဲ့ သူငယ်ချင်းကိုစပြီး မေတ္တာ ပွားပြန် ရင် လည်း မေတ္တာစိတ်မဖြစ်ဘဲ ပကတိချစ်စိတ်တွေသာဖြစ်နေတတ် တယ်။

မိမိကမချစ်မမုန်းတဲ့ သာမန်လူကိုစပြီး မေတ္တာ ပွားပြန်ရင် လည်း မေတ္တာစိတ်ဖြစ်ဘို့ ကြာလိမ့်မယ်။

ရန်သူကိုစပြီး မေတ္တာပွားပြန်ရင်လည်း မေတ္တာစိတ်မဖြစ်ဘဲ ဒေါသဖြစ်လိမ့်မယ်၊နောက်ပြီး အထူး မှတ်စရာ အချက်တွေ ရှိ သေးတယ်။

၁။ ယောကျ်ားဖြစ်ရင်မိန်းမကို မိန်းမဖြစ်ရင် ယောကျ်ားကို ဩဒိဿ မေတ္တာမပွားရဘူး။ ပွားရင် မေတ္တာမဖြစ်ဘဲ ရာဂ ဖြစ် တတ်တယ်။ ဩဒိဿ မေတ္တာဆိုတာက တခြား မဟုတ်ပါဘူး။ ပုဂ္ဂိုလ်တဦးထဲကို သီးခြားရည်ညွှန်းပြီး၊ မေတ္တာပွားတာဖြစ်ပါ တယ်၊

## အဘယ်သူအား မေတ္တာပွားရမလဲ

ရှေးအခါတုန်းက အမတ်ကြီးရဲ့ သားတယောက်ဟာ အိမ် ကိုကြွလာတဲ့ မထေရ်တပါးကို အဘယ်သူအားမေတ္တာပွားရပါ

မလဲလို့ မေးလျှောက်တဲ့အခါ မထေရ်ကြီးကချစ်တဲ့ ပုဂ္ဂိုလ်ကို မေတ္တာပွားအပ်တယ်လို့ သာမညမိန့်ဆိုလိုက်ပါတယ်၊ အဲဒီအခါ အမတ်ကြီးရဲ့သားက ချစ်တဲ့ပုဂ္ဂိုလ်ဆိုရင် မယားဘဲ ရှိတာဘဲ မယားကိုမေတ္တာပွားရမယ်ထင့်ပြီး မယားကို မေတ္တာပွားတဲ့အခါ မေတ္တာမဖြစ်ဘဲ ရာဂတွေဖြစ်ပြီး မိမိအိပ်ရာက မယားဆီကို ထသွားချင်တဲ့အတွက် နံရံကိုနွှားသိုးတိုးဝှေ့သလိုဝှေ့ပြီး တညလုံးစစ်ထိုးခဲ့ရဘူးတယ်လို့ ဝိသုဒ္ဓိမဂ်ထဲမှာ ဖေါ်ပြထားတာ တွေ့ခဲ့ရဘူးပါတယ်။

၂။ သေတဲ့လူကိုလဲ မေတ္တာမပွားရဘူး။ပွားရင်လဲအကျိုးမရှိဘူး။

လူကြီးမင်းများခင်ဗျား။

မေတ္တာစပြီးမပွားရမဲ့ ပုဂ္ဂိုလ်လေးမျိုးလေးစားကိုတော့ သိရပြီ။ဒီလိုဆိုရင်မေတ္တာစပြီး ပွားရမဲ့ပုဂ္ဂိုလ်တွေက ဘယ်သူတွေပါလဲ ကျွန်တော်ပြောပါ့မယ်။

လူကြီးမင်းများခင်ဗျား။

မေတ္တာပွားမဲ့လူဟာ တခြားဘယ်သူ့ကိုမှ မေတ္တာမပွားခင် မိမိကိုယ်ကို မေတ္တာစပြီးပွားရတယ်။

အဲဒီလိုမိမိကိုယ်ကစပြီး၊ မေတ္တာပွားရတာဟာ ဘာ့ကြောင့်လဲ။

ခပ်တိုတိုဖြေရရင် တခြားကြောင့်မဟုတ်ပါဘူး။ ကိုယ်ချင်းစာကဲ့စိတ်တွေပေါ်လာစေချင်တဲ့အတွက်ကြောင့်ဘဲဖြစ်ပါတယ်။

ငါဟာဘေးရန်ခပ်သိမ်း ကင်းငြိမ်းစေချင်တယ်။ ငါ့လိုဘဲ၊ တခြားသတ္တဝါတွေလဲ ဘေးရန်ခပ်သိမ်းကင်းငြိမ်းစေချင် ကြမှာဘဲဆိုတဲ့ ကိုယ်ချင်းစာစိတ်တွေ ပေါ်လာစေချင်တယ်။

ငါဟာ ဆင်းရဲခပ်သိမ်း၊ ကင်းငြိမ်းစေချင်တယ်၊ ငါ့လိုဘဲ တခြားသတ္တဝါတွေလဲ ဆင်းရဲခပ်သိမ်း ကင်းငြိမ်းစေချင်ကြမှာ ဘဲဆိုတဲ့ ကိုယ်ချင်းစာစိတ်တွေ ပေါ်လာစေချင်တယ်။

ငါဟာ နှလုံးစိတ်ဝမ်း အေးချမ်းစေချင်တယ်။ ငါ့လိုဘဲ တခြားသတ္တဝါတွေလဲ နှလုံးစိတ်ဝမ်း အေးချမ်းစေချင်ကြမှာဘဲ ဆိုတဲ့ ကိုယ်ချင်းစာစိတ်တွေပေါ်လာစေချင်တယ်။

## ကိုယ်ကစပြီးပွားကြရမည်

အဲဒီလိုကိုယ်ချင်းစာစိတ်တွေ ထက်ထက်သန်သန်ပေါ်လာမှ သူများတွေအပေါ်မှာ တကယ့်မေတ္တာကို ပွားနိုင်မယ်။ အဲဒါ ကြောင့် မေတ္တာပွားရင် မိမိကိုယ်ကစပြီးပွားကြရမယ်။

အဲဒီလိုမိမိကိုယ်ကို မေတ္တာပွားပြီးတဲ့နောက် (က) မိမိက အလေးအမြတ် ပြုအပ်ချစ်ခင်အပ်တဲ့ ဆရာသမား (ခ) ဒီဆရာ သမားတွေလိုဘဲ သီလသမာဓိ ဗဟုသုတရှိတဲ့ ပုဂ္ဂိုလ်တွေကို မေတ္တာပွားရမယ် ဒီလိုမေတ္တာပွားရင်း မိမိရဲ့မေတ္တာစိတ်တွေ ဟာ ထက်ထက်သန်သန် ခိုင်ခိုင်မာမာဖြစ်လာတယ်ဆိုတာ သေ ချာရင်၊ မေတ္တာစပြီး မပွားရဘူးလို့ ပယ်ထားခဲ့တဲ့ အင်မတန် ချစ်တဲ့ သူငယ်ချင်း၊ မိမိကမချစ်မမုန်းတဲ့ သာမန်လူ၊ ရန်သူတွေ ကို မေတ္တာပွားရမယ်။

မေတ္တာပွားဖန်များလာရင်၊ ၁-မိမိ၊ ၂-အင်မတန် ချစ်တဲ့ သူငယ်ချင်း၊ ၃-မိမိကမချစ်မမုန်းတဲ့ သာမန်ပုဂ္ဂိုလ်၊ ၄-ရန်သူ ဆိုတဲ့ ပုဂ္ဂိုလ်လေးဦးစလုံးဟာ အပိုင်းအခြားကင်းပြီး မိမိရဲ့ စိတ်ထဲမှာ တတန်းတစားထဲဖြစ်လာကြလိမ့်မယ်။

ဥပမာ မိမိရယ်၊ အင်မတန်ချစ်တဲ့ သူငယ်ချင်းရယ်၊ လျစ်လျူ

ရှုဆားတဲ့ ပုဂ္ဂိုလ်ရယ်၊ မိမိရဲ့ရန်သူရယ်၊ အတူတူထိုင်နေတဲ့ အခါ လူသတ်သမားတွေ ဝင်လာပြီး အဲဒီလေးယောက်ထဲက တယောက်ကို ပေးပါ၊ သတ်ချင်တယ်လို့ တောင်းရင် အဲဒီလိုမေတ္တာအညီအမျှဖြစ်နေအောင်ပွားထားတဲ့ လူဟာဘယ်သူ့ကိုမှ ပေးနိုင်တော့မှာ မဟုတ်တော့ဘူး။

ဒီလို အပိုင်းအခြားကင်းပြီး သတ္တဝါတွေ အပေါ်မှာ ညီညွတ်တဲ့မေတ္တာစိတ်ကိုရမှသာ မေတ္တာဘာဝနာ ကမ္မဋ္ဌာန်းဟာ နောက်ဆုံးစခန်းကိုရောက်ပါတယ်။

လယ်ထွန်တဲ့နေရာမှာ ကျွမ်းကျင်လိမ္မာတဲ့ လယ်သမားတဦးဟာ လယ်ကိုပိုင်းခြားပြီး တဖြည်းဖြည်း တိုးထွန်သွားသလို မေတ္တာပွားချင်တဲ့ ပုဂ္ဂိုလ်တဦးဟာ ရှေးဦးစွာ မိမိအိမ်မှာရှိတဲ့ သတ္တဝါတွေကိုမေတ္တာပို့ရမယ်၊ အဲဒီပို့ပြီးတဲ့နောက်မှ ၂အိမ်၊ ၃အိမ်၊၄အိမ်၊ ၅အိမ်၊ တိုးတက်ပြီးတလမ်း၊တရပ်ကွက်၊တရွာ တမြို့နယ်၊ တခရိုင်၊ တတိုင်း၊တနိုင်ငံ၊ တကမ္ဘာလုံး၊ စကြဝဠာတခု၊စကြဝဠာတသောင်း အစရှိသဖြင့် တဆင့်ပြီးတဆင့်တိုးပြီး မေတ္တာပွားသွားရမယ်လို့ အဋ္ဌသာလိနီ အဋ္ဌကထာက ဖွင့်ဆိုထားတာကိုလည်း မေတ္တာပွားချင်တဲ့ လူတွေ အထူးမှတ်သားထားကြရမယ်။

## မေတ္တာပွားပုံက

မေတ္တာပွားလိုတဲ့ ပုဂ္ဂိုလ်တွေလွယ်လွယ်နဲ့ ပွားနိုင်အောင် မေတ္တာပွားပုံကို အောက်ပါအတိုင်း ဖော်ပြလိုက်ပါတယ်။

## မေတ္တာပွားနည်း

၁ ငါသည်၊ ၂ ငါ၏ ကိုယ်စောင့်နတ်တို့သည်၊ ၃ ငါတို့ အိမ်သူအိမ်သားတို့သည်၊ ၄ ငါတို့အိမ်စောင့်နတ်တို့သည်၊ ၅

ငါတို့အိမ်ရှိ ကျွန်ယောက်ျား ကျွန်မတို့သည်၊ ၆ ငါ၏ မိခင်ဘခင်တို့သည်၊ ၇ ငါ၏ဆရာသမားတို့သည်၊ ၈ ငါ၏ အဆွေအမျိုးတို့သည်၊ ၉ ငါ၏ဆွေမျိုး၏ကျွန်ယောက်ျား ကျွန်မတို့သည်၊ ၁၀ ငါတို့ရွာရှိ ရဟန်းသံဃာတို့သည်၊ ၁၁ ငါတို့ရွာသူရွာသားတို့သည်၊ ၁၂ ငါတို့ရွာစောင့်နတ်တို့သည်၊ ၁၃ ငါတို့ရွာရှိ ကျွန်ယောက်ျား ကျွန်မတို့သည်၊ ၁၄ ငါတို့ရွာရှိ အစိုးရများနှင့်တကွ ခပ်သိမ်းသော သတ္တဝါတို့သည်၊ ၁၅ ငါတို့မြို့ရှိရဟန်းသံဃာတို့သည်။ ၁၆ ငါတို့ မြို့သူမြို့သားတို့သည်၊ ၁၇ ငါတို့ မြို့စောင့်နတ်တို့သည်၊ ၁၈ ငါတို့မြို့ရှိကျွန်ယောက်ျား ကျွန်မတို့သည်၊ ၁၉ ငါတို့မြို့ရှိ အစိုးရများနှင့်တကွ ခပ်သိမ်းသော သူတို့သည်၊ ၂၀ ငါတို့နယ်ရှိရဟန်းသံဃာတို့သည်၊ ၂၁ ငါတို့နယ်သူနယ်သားတို့သည်၊ ၂၂ ငါတို့နယ်စောင့်နတ်တို့သည်၊ ၂၃ ငါတို့နယ်ရှိ ကျွန်ယောက်ျား ကျွန်မတို့သည်၊ ၂၄ ငါတို့နယ်ရှိ အစိုးရများနှင့်တကွ ခပ်သိမ်းသူတို့သည်၊ ၂၅ ငါတို့ပြည်ထောင်စုရှိ ရဟန်းသံဃာတို့သည်၊ ၂၆ ငါတို့ပြည်ထောင်စုသူ ပြည်ထောင်စုသားတို့သည်၊ ၂၇ ငါတို့ပြည်ထောင်စုရှိ နတ်တို့သည်၊ ၂၈ ငါတို့ပြည်ထောင်စုရှိ ကျွန်ယောက်ျား ကျွန်မတို့သည်၊ ၂၉ ငါတို့ ပြည်ထောင်စု အစိုးရများနှင့်တကွ ခပ်သိမ်းသော သူတို့သည်၊ ၃၀ သိကြားမင်းသည်၊ ၃၁ ယမမင်းသည်၊ ၃၂ စတုလောကပါလနတ်မင်းတို့သည်၊ ၃၃ တောစောင့်နတ်တို့သည်၊ ၃၄ တောင်စောင့်နတ်တို့သည်၊ (က) ဘေးရန်ခပ်သိမ်း ကင်းငြိမ်းပါစေ၊ (ခ) ကြောင့်ကြခပ်သိမ်းကင်းငြိမ်းပါစေ၊ (ဂ) ဆင်းရဲခပ်သိမ်း ကင်းငြိမ်းပါစေ၊ (ဃ) နှလုံးစိတ်ဝမ်း အေးချမ်းပါစေ။

ရှေ့ကဖော်ပြထားတဲ့ စာကြောင်းတကြောင်း ဆုံးတိုင်းဆုံးတိုင်း (စေ) ပါကဲ့ (စာပိုဒ်) ၄-ပိုဒ်စလုံးကို ဆိုရပါလိမ့်မည်၊

ဆိုတဲ့အခါ တကယ့်မေတ္တာစိတ်နဲ့ ယှဉ်ပြီးဆိုနိုင်အောင် ကြိုးစားစေချင်ပါတယ်။

ဥပမာ-ရှေ့က ဖော်ပြထားတဲ့ (ငါသည်)ဆိုတဲ့စာကြောင်းဆုံးတာနဲ့ တပြိုင်နက် ဘေးရန် ခပ်သိမ်း ကင်းငြိမ်းပါစေ၊ ကြောင့်ကြခပ်သိမ်း ကင်းငြိမ်းပါစေ၊ ဆင်းရဲခပ်သိမ်း ကင်းငြိမ်းပါစေ၊ နှလုံးစိတ်ဝမ်း အေးချမ်းပါစေ လို့ မေတ္တာနဲ့ယှဉ်တဲ့စိတ်နဲ့ ဆိုရမယ်။

အဲဒီအတိုင်း အဆုံးအထိတကြောင်းစီဆိုရင်း မေတ္တာပွားရမယ်။

## စိတ်နူးညံ့လာပါလိမ့်မည်

အဲဒီလို မေတ္တာပွားလို့ မိမိရဲ့စိတ်ဟာ အတော်နူးညံ့လာရင် အခုနောက်ထပ်ပြမဲ့ အကျဉ်းမေတ္တာပွားနည်းနဲ့ ဆက်ပွားစေချင်ပါတယ်၊ အခုပြမဲ့အကျဉ်းနည်းနဲ့ လက်ဦးမပွားပါနဲ့ ပထမပြခဲ့တဲ့နည်းနဲ့ မေတ္တာပွားပြီး မိမိရဲ့စိတ်ဟာအတော်ကို နူးညံ့လာပြီဆိုတော့မှ အခုနည်းနဲ့ပွားဘို့ သတိထပ်ပြီးပေးပါရစေ။

အကျဉ်းနည်း ၁ အရှေ့အရပ်၌ရှိသောအလုံးစုံသောသူတို့သည်၊ ၂ အရှေ့တောင် အရပ်၌ရှိသော အလုံးစုံသော သူတို့သည်၊ ၃ တောင်အရပ်၌ရှိသော အလုံးစုံသော သူတို့သည်၊ ၄ အနောက်တောင်အရပ်၌ရှိသော အလုံးစုံသောသူတို့သည် ၅ အနောက်အရပ်၌ရှိသော အလုံးစုံသောသူတို့သည်၊ ၆-အနောက်မြောက်အရပ်၌ရှိသော အလုံးစုံသော သူတို့သည်၊ ၇-မြောက်အရပ်၌ ရှိသော အလုံးစုံသော သူတို့သည်၊ ၈ အရှေ့မြောက်အရပ်၌ရှိသော အလုံးစုံသော သူတို့သည်၊ ၉ အထက်

အရပ်၌ရှိသော အလုံးစုံသော သူတို့သည်၊ ၁၀ အောက်အရပ်၌ရှိသော အလုံးစုံသော သူတို့သည်--

(က) ဘေးရန်ခပ်သိမ်းကင်းငြိမ်းပါစေ။

(ခ) ကြောင့်ကြခပ်သိမ်းကင်းငြိမ်းပါစေ။

(ဂ) ဆင်းရဲခပ်သိမ်း ကင်းငြိမ်းပါစေ။

(ဃ) နှလုံးစိတ်ဝမ်းအေးချမ်းပါစေ။

အခုမေတ္တာ ပွားနည်းကိုလဲ ပထမတုန်းကလိုဘဲ အရပ်တရပ်ကိုဆိုပြီးတိုင်း ဆိုပြီးတိုင်း (စေ) ပါတဲ့ အပုဒ် လေးပုဒ်စလုံးကို မေတ္တာနဲ့ ယှဉ်တဲ့ စိတ်နဲ့ဆိုရမယ်။

## မေတ္တာသုတ်ဒေသနာ

အခုအကျဉ်းနည်းကိုပြပြီးလို့ မေတ္တာသုတ် ဒေသနာတော်ထဲမှာပါတဲ့ မကျဉ်းမကျယ် ပွားများနည်းကိုဆက်ပြီးပြချင်ပါတယ်။

## မကျဉ်းမကျယ်နည်း

၁ အလုံးစုံ ထိတ်လန့်တတ်သော ပုထုဇဉ်သေက္ခတို့သည်၊ ၂ ထိတ်လန့်ခြင်းမရှိသော ရဟန္တာတို့သည်၊ ၃ မြင်ဘူးသော သတ္တဝါတို့သည်၊ ၄ မမြင်ဘူးသောသတ္တဝါတို့သည်၊ ၅ ဝေးသောသတ္တဝါတို့သည်၊ ၆ နီးသောသတ္တဝါတို့သည်၊ ၇ ဖြစ်ပြီးရဟန္တာ သတ္တဝါတို့သည်၊ ၈ ဘဝသစ်၌ ဖြစ်လတ္တံ့သော ပုထုဇဉ် သေက္ခသတ္တဝါတို့သည်၊ ၉ ရှည်သော ကိုယ်ရှိသော မြွေစသော သတ္တဝါတို့သည်၊ ၁၀ တိုသော ကိုယ်ရှိသော ကြွက်ငှက် စသော သတ္တဝါတို့သည်၊ ၁၁ အလယ် အလတ် သော ကိုယ်ရှိသော ကျွဲနွားစသော သတ္တဝါတို့သည်၊ ၁၂ ကြီးမားသော ကိုယ်ရှိသော ဆင် လိပ်စသော သတ္တဝါတို့သည်။ ၁၃

သေးငယ်သော ကိုယ်ရှိသော ပိုး မွှားစသော သတ္တဝါတို့သည်၊ ၁၄ အလယ်အလတ်သော ကိုယ်ရှိသော ကျွဲ နွားစသောသတ္တဝါတို့သည်၊ ၁၅ ဝန်းဝိုင်းပြည့်ဖြိုးသော ကိုယ်ရှိသော ငါး လိပ် စသော သတ္တဝါတို့သည်၊ ၁၆ မဝိုင်း မဝန်း မပြည့်ဖြိုး သော ကိုယ်ရှိသော ရေပိုး ရေမွှားစသော သတ္တဝါတို့သည်၊ ၁၇ မဝန်းမဝိုင်း မပြည့် မဖြိုးလွန်း မသေးမငယ်လွန်းသဖြင့် အလယ်အလတ်သော ကိုယ်ရှိသော သတ္တဝါတို့သည် ဘေးရန် ခပ်သိမ်း ကင်းငြိမ်းပါစေ၊ကြောင့်ကြခပ်သိမ်းကင်းငြိမ်းပါစေ၊ ဆင်းရဲခပ်သိမ်း ကင်းငြိမ်းပါစေ၊နှလုံးစိတ်ဝမ်း အေးချမ်းပါစေ။

တပါးသောသူသည် တပါးသောသူအား အမျက်ထွက်ခြင်းမှ ကင်းပါစေ၊တစုံတခုသောအရာ၌ တစုံတယောက်သောသူကို တစုံတယောက်သောသူက ညှဉ်းဆဲချုတ်ချယ်လိုသောကာယကံ ဝစီကံဖြင့် သော်၎င်း၊ ခိုက်ရန်မျက်ပွား၊ ငြိုးထားသော စိတ်ဖြင့်၎င်း၊အချင်းချင်း၏ ဆင်းရဲဒုက္ခကို အလိုမရှိပါစေလင့်။

**မိခင်မေတ္တာ ပုံပမာသို့**

တဦးထည်းသော သားငယ်ကို မိခင်ဖြစ်သူဟာအထူးချစ်ပါတယ်။ ဒီမိခင်မှာ စားရင်လဲ ဒီသားငယ်ရဲ့စိတ်ဘဲ။ သွားရင်လဲ ဒီသားငယ်ရဲ့စိတ်ဘဲ၊ လဲလျောင်းနေရင်လဲ ဒီသားငယ်ရဲ့ စိတ်ဘဲ။ ဒီသားငယ်အသက်ရှည်အောင်လဲ မမေ့သောသတိနဲ့ အထပ်ထပ် အခါခါ စောင့်ရှောက်တယ်။

အဲဒီမိခင်လိုဘဲ ယူတိုင်းဟာလဲ သတ္တဝါတွေ အားလုံးအပေါ်မှာ မပြတ်တဲ့သတိမျိုးနဲ့ အစဉ် မေတ္တာပွားနေရမယ်။

မေတ္တာပွားတဲ့အခါ အထက်အရပ် အောက်အရပ် တူရူဖြစ်တဲ့အရပ် ထောင့်အရပ်အစရှိတဲ့ အရပ်တွေအားလုံးမှာ ရှိကြတဲ့ သတ္တဝါတွေအားလုံးအပေါ်မှာ မေတ္တာပွားရမယ်။

နောက်ပြီးတော့လဲ ရယ်နေတဲ့အခါဖြစ်ဖြစ်၊ ထိုင်နေတဲ့အခါဖြစ်ဖြစ်၊ လဲလျောင်းနေတဲ့အခါဖြစ်ဖြစ်၊ အိပ်ပျော်သွားတဲ့အချိန်ကိုရောက်သည့်တိုင်အောင် မေတ္တာကိုပွားနေရမယ်။

အခုပြောခဲ့သလို မေတ္တာကို အစဉ်ပွားပြီး နေတာမျိုးကို ဗြဟ္မာတို့ နေခြင်းဖြစ်တယ်လို့ မြတ်စွာဘုရားသခင် အစရှိတဲ့ ပညာရှိတွေက မိန့်ကြားခဲ့ဘူးပါတယ်။

အခုဆက်ပြီး မေတ္တာပွားများတဲ့ ပုဂ္ဂိုလ်တွေ ကျင့်အပ်တဲ့ ကိုယ်ကျင့်တရားတွေကို တခုစီရှင်းပြပါ့မယ်။

သစ်ပင်စိုက်တဲ့ ဥပမာကလေးကို ရှေးဦးစွာပြပါရစေ၊ သစ်ပင်စိုက်တဲ့အခါ။

၁ မြေသြဇာကောင်းရုံနဲ့ ၂ မြေတောင် မြှောက်ပေးရုံနဲ့ ၃ ရေမှန်မှန်လောင်းပေးရုံနဲ့ ၄ မြေသြဇာအချိန်မှန်မှန်ကျွေးရုံနဲ့ မလုံလောက်ပါဘူး။ သစ်စေ့ကိုယ်တိုင်ကလဲ ကောင်းရပါလိမ့်ဦးမယ်။

မြေကြီးက ဘယ်လိုဘဲမြေသြဇာကောင်းကောင်း၊ ဘယ်လိုဘဲမြေတောင်မြှောက်ပေးပေး၊ ရေကိုဘယ်လိုဘဲ မှန်မှန်လောင်းလောင်း၊ ဘယ်လောက်ကောင်းတဲ့ မြေသြဇာတွေကိုဘဲ ကျွေးကျွေး၊ သစ်စေ့ကပိုးတိုးကြီးဖို့ရင် ပိုးတိုးသစ်စေ့က သစ်ပင်ကောင်းပေါက်မှာမဟုတ်ပါဘူးလို့တော့ ဘကြားကြီး တွေးနေဖို့ လိုသေးသလား မလိုပါဘူး။

အဲဒီလိုပါဘဲ မေတ္တာပွားနည်းတွေက ဘယ်လောက်ဘဲ ကောင်းကောင်း မေတ္တာပွားတဲ့လူကလဲ ဘယ်လောက်ဘဲ ကြိုးစား ကြိုးစား ကာယကံရှင်ကိုယ်တိုင်က ကိုယ်ကျင့်တရားတွေ ချွတ်ချော်မှားယွင်းနေပြန်ရင်လဲ သူပွားတဲ့မေတ္တာဟာထက်မြက်မှာမဟုတ်ပါဘူး၊ အဲဒါကြောင့် ပွားများတဲ့မေတ္တာဟာ အစွမ်း

ကုန်ထက်မြက်အောင် မေတ္တာပွားသူ၊ ကာယကံရှင်ဟာ ကောင်းတဲ့ ကိုယ်ကျင့်တရားတွေနဲ့ ပြည့်စုံသူ ဖြစ်ရမယ်။ အဲဒီတော့ မေတ္တာပွားသူတွေမှာ ရှိရမဲ့ ကိုယ်ကျင့်တရားတွေကို မေတ္တသုတ်ထဲမှာပါတဲ့ အတိုင်းဖော်ပြပါရစေ။

## ကိုယ်ကျင့်တရား ၁၆ ပါး

မေတ္တာပွားများတဲ့ ပုဂ္ဂိုလ်မှာ ထိန်းသိမ်း စောင့်ရှောက်အပ်တဲ့ ကိုယ်ကျင့်တရား ၁၆ ပါးရှိပါတယ်။ ဒီတရားတွေကိုတခုစီ ရှင်းပြပါမယ်။

၁ ငြိမ်သက်သော အကြောင်း နိဗ္ဗာန်သည်ရှိ၏။ ထိုနိဗ္ဗာန်ကို ဉာဏ်ဖြင့်သက်ဝင်၍ အကျိုးစီးပွား၌ လိမ္မာသောသူသည် ပြုအပ်၏။

ဒီကိုယ်ကျင့်တရားရဲ့အဓိပ္ပါယ်က ဒီလိုပါ၊ ဘာဘဲလုပ်လုပ်၊ ဒါနဘဲလုပ်လုပ်၊ သီလဘဲစောင့်စောင့်၊ မေတ္တာဘဲပွားပွား၊ ဘယ်ကုသိုလ်ကိုဘဲ အားထုတ် အားထုတ် အကျိုးစီးပွားကို အလိုရှိတဲ့ ပုဂ္ဂိုလ်ဟာ နိဗ္ဗာန်ကို မျက်ခြေမပြတ်ရဘူး။ ဘာဘဲလုပ်လုပ် နိဗ္ဗာန်ကိုဉာဏ်နဲ့ အာရုံပြုပြီးလုပ်ရမယ်လို့ ဆိုလိုပါတယ်။

၂ မိမိ ပြုသင့် ပြုထိုက်သော အမှုတို့ကို ပြုခြင်းငှါ စွမ်းနိုင်သည်လည်းဖြစ်ရာ၏။ ဒီကိုယ်ကျင့်တရားရဲ့ အဓိပ္ပါယ်ကတော့ တခြားမဟုတ်ပါဘူး၊ မိမိပြုရမဲ့ တာဝန်ဝတ္တရားကို ကျေကျေပွန်ပွန်ဆောင်ရွက်နိုင်ရမယ်ဆိုတဲ့ အဓိပ္ပါယ်ဘဲဖြစ်ပါတယ်။ မိဘလုပ်တဲ့ လူကလဲ မိဘရဲ့တာဝန်ဝတ္တရားအားလုံး လုပ်တဲ့ လူတွေကလဲ၊ သားသမီးရဲ့ တာဝန်ဝတ္တရား၊ လင်ယောကျ်ား လုပ်သူကလဲ လင်ယောကျ်ားရဲ့ တာဝန်ဝတ္တရား။ မယားလုပ်သူကလဲ မယားရဲ့ တာဝန်ဝတ္တရား၊ နိုင်ငံရေး ခေါင်းဆောင်းတွေကလဲ ခေါင်း

ဆော်ဒင်တွေရဲ့ တာဝန်ဝတ္တရား၊ ငယ်သားတွေကလဲ ငယ်သားတွေရဲ့တာဝန်ဝတ္တရား၊အစိုးရကလဲ အစိုးရရဲ့တာဝန်ဝတ္တရား၊ တိုင်းသူ ပြည်သားတွေကလဲ တိုင်းသူပြည်သားတွေရဲ့ တာဝန်ဝတ္တရားတွေကို ကိုယ်စီ ကိုယ်ငှ ကျေကျေ ပွန်ပွန် ဆောင်ရွက်သွားကြမယ် ဆိုရင် မေတ္တာ မပို့သေး သည့် တိုင် အောင်ကာယကံမေတ္တာပွားပြီးသားဖြစ်နေပြီ။ ဒီဝတ္တရားတွေကို ပျက်နှတ်က ဘယ်လိုဘဲမေတ္တာပို့ပေမဲ့ ပို့ရာမရောက်ဘူး။

အဲဒါကြောင့် မိမိပွားတဲ့မေတ္တာ ထက်ထက် မြက်မြက် ဖြစ်စေချင်တဲ့ ပုဂ္ဂိုလ်တဦးမှာ မိမိရဲ့ တာဝန်ကို ကျေပွန်အောင် ဆောင်ရွက်နိုင်တဲ့ ကိုယ်ကျင့်တရားရှိရမယ်။

၃ ဖြောင့်မတ်သည်လည်းဖြစ်ရာ၏။

မေတ္တာပွားနေတဲ့လူတယောက်ဟာ ကိုယ်ရဲ့ ကောက်ကျစ်ခြင်း၊ နှုတ်ရဲ့ကောက်ကျစ်ခြင်း၊ စိတ်ရဲ့ကောက်ကျစ်ခြင်းတို့ကို ရှောင်ပြီး၊ ကိုယ်၊ နှုတ်တို့ကို ဖြောင့်မတ်အောင်ကျင့်နိုင်တဲ့ ကိုယ်ကျင့်တရားနဲ့ ပြည့်စုံရမယ်။

၄ အလွန်ဖြောင့်မတ်သည်လည်းဖြစ်ရာ၏။

အလွန်ဆိုတဲ့ စကားပါနေတဲ့အတွက် နံပါတ် ၃ ကိုယ်ကျင့်တရားမှာ ဖြောင့်မတ်ရမှာထက် ပိုပြီး ဖြောင့်မတ် ရမယ်ဆိုတာ အထူးရှင်းပြဘို့မလိုတော့ပါဘူး။အလွန်ဖြောင့်မတ်ရမဲ့ လူတယောက်ဟာ ကိုယ်၊ နှုတ်၊ စိတ် ဖြောင့်မတ်ရုံသာမက ကိုယ်နဲ့ တခြားလူတွေနဲ့ပတ်သက်တဲ့ကိစ္စတိုင်းမှာလဲ အနစ်နာခံနိုင်တဲ့စိတ်ရှိရမယ်။ အဲဒီစိတ်ရှိမှသာ အလွန် ဖြောင့်မတ်တဲ့ ကိုယ်ကျင့်တရားနဲ့ပြည့်စုံရာရောက်မယ်။

၅ ဆိုလွယ်သည်လည်းဖြစ်ရာ၏။

ဒီကိုယ်ကျင့်တရားနဲ့ ပြည့်စုံအောင် ကျွန်တော်တို့ မြတ်စွာဘုရားသခင်ဟာ သုံးလောကမှာအတုမရှိတဲ့ ကိုယ်တော်ကြီးဖြစ်ပါလျက် သူတပါးသားမြေးတွေကို မိခင် ဘခင်တွေက ခွင့်မပြုရင် ရှင်ရဟန်းမပြုတို့ လျှောက်ထားတဲ့ သုဒ္ဓေါဒန မင်းကြီးရဲ့စကားကို ပယ်တော်မမူဘူး၊ လက်ခံတော်မူတယ်။ နောက်ပြီးတော့လဲဝါကပ်ဘို့ရာလျှောက်ထားတဲ့ ဗိမ္ဗိသာရ မင်းကြီးရဲ့စကားကိုလဲပယ်ရှားတော်မမူဘူး။လက်ခံတော်မူပါတယ်။

၆ နူးညံ့သော ကိုယ်မှု၊ နှုတ်မှု၊ စိတ်မှုရှိသည်လည်း ဖြစ်ရာ၏။

## နူးညံ့သိမ်မွေ့ရမည်

ဘာဘဲလုပ်လုပ် ဘာဘဲပြောပြော၊ဘာဘဲကြံစည်ကြံစည်၊ နူးညံ့သိမ်မွေ့ရမယ်၊

၇ အလွန်မာနမထောင်လွှားသည်လည်းဖြစ်ရာ၏။ ၈ ရောင့်ရဲလွယ်သည်လည်းဖြစ်ရာ၏။ ၉ အမွေးအမြူ လွယ်သည်လည်းဖြစ်ရာ၏။ ၁၀ နည်းသောကိစ္စ ရှိသည်လည်း ဖြစ်ရာ၏။ ၁၁ ပေါ့သောအသက်မွေးခြင်းသည်လည်း ဖြစ်ရာ၏။ ၁၂ ငြိမ်သက်သော ဣန္ဒြေရှိသည်လည်းဖြစ်ရာ၏။

မျက်စိကအဆင်းတခုခုကိုမြင်တဲ့အခါ နားကအသံကိုကြားတဲ့အခါ နှာကအနံ့တခုခုကိုရှူရှိုက်ရတဲ့အခါ လျှာက အစားတခုခုကို စားရတဲ့အခါ ကိုယ်ကအတွေ့အထိတခုခုကို ထိရတဲ့အခါ စိတ်ကအကြံအစည်ဟာခုခုကို ကြံစည်မိတဲ့အခါ အမှတ်တမဲ့နေလိုက်ရင် ရာဂတွေဖြစ်တတ်တယ်။ အဲဒါကြောင့် မြင်တိုင်း၊ ကြားတိုင်း၊ ရှူရှိုက်တိုင်း၊ စားသောက်တိုင်း၊ တွေ့ထိတိုင်း၊ ကြံစည်စိတ်ကူးတိုင်း သတိဖြစ်နိုင်အောင် အထူးကြိုးစားရမယ်။

မိန်းမလိုက်စားခြင်း၊ လောင်းတမ်းကစားခြင်း၊သောက်စားမူးယစ်ခြင်း'ပွဲလမ်းသဘင် အပျော်အရွှင်ကြူးခြင်း၊ အစားအသောက်ကြူးခြင်း၊ကိုယ်မငြိမ်မသက်ခြင်း၊ နှုတ်မငြိမ်မသက်ခြင်း၊ အရှုးလိုသွားလာလှုပ်ရှား၊ ပြောဆိုခြင်းတို့က ကင်းပအောင် ဉာဏ်ရရနေ့ထိုင်သွားလာ ပြောဆိုကြရမယ်။ အစစ အရာရာမှာ တည်တည်ကြည်ကြည်ရှိရမယ်။

ပဏ္ဍမြား ကျောက်စီနားဒောင်း ဝတ်ဆင်သော အိမ်ရှင်မကို အိမ်ရှင်ယောကျ်ားဟာ တစိမ့်စိမ့် ကြည့်သကဲ့သို့ သမာဓိဆိုတဲ့ တည်ကြည်တဲ့ ဉာဏ်ရတနာကိုပန်ဆင်ကြတဲ့ ပုဂ္ဂိုလ်ကို နတ်နဲ့ တကွသော လူတို့ဟာ ရှုကြည့်ကြပါတယ်။

၁၃ ရင့်မာသော ပညာရှိသည် လည်းဖြစ်ရာ၏။

ကိစ္စတခုကို ဆောင်ရွက်တော့မည်ဆိုရင် မြန်း ဗိုင်းဆိုပြီး အလျင်စလိုမလုပ်ရဘူး။ သေသေချာချာ အကျိုးနဲ့ အကြောင်းနဲ့ ဆင်ခြင်စဉ်းစားရမယ်၊ လုပ်ပေါ် ကိုင်ဘက်ခြင်း အကြိမ်ကြိမ် တိုင်ပင်ဆွေးနွေးရမယ်။

ကျမ်းဂန်တို့ကို [illegible] သောက် သင် [illegible] ရမယ်။ ကမ္ဘာ့ [illegible] နိုင်သလောက် [illegible] ရမယ်။ [illegible] ကျမ်းဂန် [illegible] ကြ [illegible] အခါမှာရေ [illegible] အား [illegible] ကျနနဲ့ ညှိ [illegible] ပြသနိုင်တဲ့ ဆရာကောင်းကို တွေ့အောင်ရှာ [illegible] ရမယ်။

[illegible] အရပ်ပယ်ဝတဲ့ [illegible] လုပ်တွေကိုလုပ် [illegible] အခါမှာလဲ တတ်ကျွမ်းတဲ့ ပုဂ္ဂိုလ်တွေနဲ့ တိုင်ပင်နိုင်သလောက် တိုင်ပင်ပြီး ကိုယ့်ပစ္စည်းအင်အား၊လူအင်အားဉာဏ်နဲ့ [illegible] အင်အားတို့ကိုကြည့်ပြီး လုပ်ကိုင်ကြရမယ်။

# ပုဂ္ဂိုလ် ၃-မျိုး

လောကမှာအကြမ်းအားဖြင့် ပုဂ္ဂိုလ်သုံးမျိုးရှိပါတယ်။ မျက်စိစုံလုံးကန်းနေတဲ့လူ၊မျက်စိတလုံးသာမြင်တဲ့လူ၊မျက်စိနှစ်လုံး စလုံးမြင်တဲ့ လူဆိုတဲ့သုံးမျိုးဘဲဖြစ်ပါတယ်။ မျက်စိစုံလုံးကန်းနေတဲ့လူကတခြားမဟုတ်ပါဘူး၊လောကီအကျိုးစီးပွား နောင်တမလွန်အကျိုးစီးပွားတွေကို ဘယ်လိုလုပ်ရမှန်း မသိတဲ့ လူဖြစ်ပါတယ်။တလုံးကန်းကတော့ လောကီ အကျိုးစီးပွား ဖြစ်အောင်လုပ်နိုင်တဲ့သူဖြစ်ပါတယ်။နှစ်လုံးစလုံးမြင်တဲ့လူကတော့လောကီလောကုတ္တရာ အကျိုးစီးပွား ၂ခုစလုံးဖြစ်အောင် လုပ်နိုင်တဲ့လူဖြစ်ပါတယ်။

၁၄ မကြမ်းတမ်းသော ကိုယ်အမူအရာ နှုတ်အမူအရာ ရှိသည်လည်းဖြစ်ရာ၏။

ကိုယ်၊ နှုတ် စိတ်တို့ကြမ်းတမ်းခြင်းမရှိစေရဘူး။

စကားပြောကျယ်၊အရယ်ကျယ်၊အခေါ်ကျယ်၊ အချေကျယ်၊ အသမ်းကျယ်ဆိုတဲ့ကျယ်ငါးပါးကို ၂ယ်ရမယ်။

အစားကြမ်း၊ အအိပ်ကြမ်း၊ အသွားကြမ်း၊ အထိုင်ကြမ်း၊ အရယ်ကြမ်း၊ စိတ်ကြမ်း၊ ကိုယ်ကြမ်း၊နှုတ်ကြမ်း၊ အဆုံးမကြမ်း ဆိုတဲ့ ကြမ်းကိုးပါးကိုလဲပယ်ရမယ်။

၁၅ အမျိုးတို့၌(ဝါ)ပုဂ္ဂိုလ်တို့၌ခြားမဲ့လမ်းသည်ဖြစ်ရာ၏။

၁၆ အကြင်အကုသိုလ်စု၊ ဒုစရိုက်မှုကြောင့် လိမ္မာတတ်သိပညာရှိဖြစ်ကုန်သော တပါးသောသူသည် ရှုတ်ချကဲ့ရဲ့ ပြောဆိုခဲ့ကုန်ရာ၏။ သေးငယ်သော အကုသိုလ်စု၊ဒုစရိုက်မှုကို အနည်းငယ်မျှပင် ဖြစ်သော်လည်း မပြုလုပ်ရာ။

## ပညာရှိတို့ရှုတ်ချစရာရှိလျှင်

မိမိလုပ်မဲ့ ကိစ္စကလေးဟာ ဘယ်လောက်ဘဲ သေးငယ်တဲ့ ကိစ္စဖြစ်ဖြစ်ပညာရှိတဦးဦးက ကဲ့ရဲ့ရှုတ်ချစရာ ဖြစ်နေမယ်ဆို ရင် ဒီကိစ္စကိုနဲနဲကလေးတောင် မလုပ်ရဘူး၊ အထူးရှောင်ရ မယ်။

ငါတို့မြတ်စွာဘုရားသခင်သည် သိဉ္စည်းပရိမိုဇ်၏ တပည့် ဖြစ်ကုန်သော ရှင်သာရိပုတ္တရာ၊ ရှင်မဟာမောဂ္ဂလာန်တို့ကို ရဟန်းပြုတော်မူပြီးသည်ကစ၍ ရာဇဂြိုဟ်မြို့သူ မြို့သားတို့သည် ရာဇဂြိုဟ်မြို့တွင်းသို့ ဆွမ်းခံဝင်လာသော ရဟန်းတို့ကို--

အာဂတောခေါ မဟာသမဏော၊
မဂဓါနံ ဂိရိဗ္ဗဇံ။
သဗ္ဗေ သဉ္စယေ နေတွာန။
ကံသု ဒါနိ နယိဿတိ။

မဟာသမဏော၊ ရှင်ကြီးဂေါတမသည်။ မဂဓါနံ၊ မာဂဓ တိုင်းသူတို့၏။ ဂိရိဗ္ဗဇံ၊ တောင်ငါးလုံးခြံရံသော ရာဇဂြိုဟ် မြို့သို့။ အာဂတောခေါ၊ကြွလာလေပြီ။ သဗ္ဗေသဉ္စယေ၊သိဉ္စည်း ပရိမိုဇ်တပည့်အားလုံးတို့ကို။ နေတွာန၊ဆောင်ယူပြီး၍။ဣဒါနိ၊ ယခုအခါ၌။ကံ၊အဘယ်သူကို၊ နယိဿတိ၊ ဆောင်ယူလတ္တံ့ နည်းဟူ၍ ကဲ့ရဲ့သဂြိုဟ်ကြကုန်၏။

ထိုသို့ကဲ့ရဲ့ခြင်းမှာ ဖြစ်သော ကဲ့ရဲ့ခြင်း၊အရာမဟုတ်သည် ၌ကဲ့ရဲ့ခြင်းဖြစ်သော အလေးမူအပ်သော အရာမဟုတ်၍မြတ်စွာ ဘုရားအား ထိုအကြောင်းကို လျှောက်လျှင် သင်တို့ကလည်း ပြန်၍ချေပကြရမည်ဟူ၍ မိန့်မှာ၍ အောက်ပါဂါထာကို ဟော တော်မူ၏။

နယန္တိဝေ မဟာဝီရာ၊ သဒ္ဓမ္မေန တထာဂတာ။
ဓမ္မေန နယမာနာနံ၊ ကာဥသူယျာ ဝိဇာနတံ။

မဟာဝီရာ၊ ကြီးသောလုံ့လ ရှိကုန်သော။ တထာဂတာ၊ ရှင်တော်ဘုရားတို့သည်။ သဒ္ဓမ္မေန၊ သူတော်ကောင်းတရားဖြင့် နယန္တိ၊ ဆောင်ကြကုန်၏။ ဓမ္မေန၊ တရားသဖြင့်။ နယမာနာနံ၊ ဆောင်ကုန်သော သူတို့ကို။ ဝိဇာနတံ၊ တရားသဖြင့် ဆောင်ယူသည်ဟုသိလျက်။ ဥသုယျာ၊ ကဲ့ရဲ့ငြူစူခြင်းသည်။ ကာ၊ အဘယ်အကျိုးရှိအံ့နည်း။

## ရန်အောင်ရေးအသုံးချပါ

ဒီမေတ္တာ လက်နက်ကြီးကို ရန်အောင်ရေးအတွက် ယုံယုံကြည်ကြည်နဲ့ အသုံးချကြပါ။ ပုထုဇဉ်တွေဖြစ်တဲ့အတိုင်း တခါတခါတော့ မေတ္တာတွေ ဘေးဖယ်သွားပြီး တွေ့ကရာနဲ့ထလုပ်ချင်တဲ့ စိတ်ရူးစိတ်မိုက်တွေ ပေါက်ပေါက် လာတတ်ပါတယ်။ ဒီစိတ်ရူးစိတ်မိုက်တွေအလိုမလိုက်ပါနဲ့ နိုင်အောင်ထိန်းပေးပါ၊ ရန်သူက ပိုကြမ်းလာလေလေ ပိုရမ်းလာလေလေ မေတ္တာကို ဖိပြီးအားကိုးလေလေ ဖြစ်နိုင်အောင် ကြိုးစားပါ။

တခါတခါတော့ ဖြစ်တတ်ပါတယ်။ ကျွန်တော်လဲကိုယ်ချင်းစာပါတယ်။ရန်သူကို မေတ္တာပွားဘို့ နေနေသာသာ ရန်သူဟာ စိတ်ထဲမှာ ပေါ်လာတာနဲ့တပြိုင်နက် အသားတွေ ဆတ်ဆတ်တုန်လာတာမျိုးအထိ ရှိနိုင်ပါတယ်။ ဒါပေမဲ့ ဘာဘဲဖြစ်ဖြစ် ဒီဖြစ်ပေါ်လာတဲ့ စိတ်ရူးစိတ်မိုက်တွေကို အားမပေးပါနဲ့ ပေါ်လာတာနဲ့ ချက်ခြင်း ဖျောက်ဖျက်ပစ်ပြီး မေတ္တာကိုသာဖိပြီးပွားများပေးပါ။ ကြိုးစားကာဘုရားတောင်ဖြစ်နိုင်သေးရင်ဖိဖိစီးစီး

ပြင်းပြင်းထန်ထန် ဇွဲကောင်းကောင်းနဲ့ ကြိုးစားမယ် ဆိုရင် ဒီလောက်ရန်ငြိုးစိတ်ကိုမေတ္တာစိတ်က ဘာဖြစ်လို့မနိုင်နိုင်ရမှာလဲ နိုင်နိုင်ရမယ်။

ဒီလိုရန်ငြိုးတွေကိုနိုင်အောင် နှိမ်နင်းဖို့ အင်မတန်ကောင်းတဲ့နည်းကိုဝိသုဒ္ဓိမဂ်ထဲက ကျွန်တော်ထုတ်ပေးပါ့မယ်။ ရန်ငြိုးကို နိုင်ဖို့အတွက် ဒီနည်းကောင်းကို ယုံယုံကြည်ကြည်နဲ့ သုံးကြည့်ကြစမ်းပါ။

ဝိသုဒ္ဓိမဂ်ထဲမှ ရန်ငြိုးကိုနှိမ်နင်းနိုင်သောနည်းကောင်းကြီး။ ဒီနည်းမှာ လုပ်ဖို့လုပ်ငန်းအဆင့်ဆင့်ရှိပါတယ်။ အဲဒီလုပ်ငန်းတွေကို ကျွန်တော်အဆင့်ဆင့် ဖော်ပြသွားပါ့မယ်။ ဒီနည်းဟာ အမှန်စင်စစ်ဆိုရင် ရဟန်းများအတွက် ထားပစ်ခဲ့တဲ့နည်းဖြစ်ပါတယ်။

၁။ ရန်သူကိုမေတ္တာပွားနေရင်း ဒေါသဖြစ်လာရင် မိမိရဲ့စိတ်ကို မိမိချစ်ခင်တဲ့ပုဂ္ဂိုလ်တဦးဦး အပေါ်သို့ အာရုံပြောင်းလိုက်ပါ။ အဲဒီချစ်သူကို မေတ္တာပွားလို့မေတ္တာစိတ်တွေအတော်ရင့်သန်လာတဲ့ အခါမှာ ရန်သူကိုမေတ္တာဆက်ပွားပါ။

၂။ အဲဒီလိုလုပ်ပေမဲ့ မေတ္တာပွားလို့မရဘဲ ဒေါသထွက်မြဲထွက်နေသေးတယ်ဆိုရင် ဒုတိယအဆင့်အနေနဲ့ မိမိစိတ်ကိုဒီလိုဆုံးမပေးပါ။

## မြတ်စွာဘုရား၏ဥပမာ

ဒေါသနဲ့ပတ်သက်ပြီး မြတ်စွာဘုရားသခင်ဟာ အောက်ပါအတိုင်း ဟောကြားခဲ့ပါတယ်။

(က) ရဟန်းတို့နှစ်ဘက်လက်ကိုင်ရှိသော ငမန်းစွယ်လွှကြီးဖြင့် ယုတ်မာဆိုးရွားသော ခိုးသူတို့သည် ကိုယ်အင်္ဂါ

တို့ကိုအကယ်၍ တိုက်ဖြတ်ကုန်ငြားအံ့။ ထိုအင်္ဂါကြီးငယ်တို့ကို ဖြတ်သော သူတို့၌သော်လည်း အကြင်သူသည် စိတ်ပြစ်မှားရာ၏။ထိုသူသည်ထိုသို့ပြစ်မှားသောကြောင့်ငါဘုရား၏အဆုံးအမကို လိုက်နာသည်မမည်။

(ခ) အကြင်သူသည် အမျက်ထွက်သော သူကိုတုံ့ပြန်၍ အမျက်ထွက်၏။ ထိုသူသည် ထိုအမျက် တုံ့ပြန်ထွက်သောကြောင့် ထိုရှေးဦး အမျက်ထွက်သော သူထက် ယုတ်မာသည်ဖြစ်၏။ မိမိအား အမျက်ထွက်သောသူကိုတဖန်ပြန်၍ အမျက်မထွက်သောသူသည်အောင်နိုင်ခဲသှသေါကိလေသာမာရ်၏စစ်သည်ဗိုလ်ထုကိုအောင်နိုင်သည်မည်၏။

(ဂ) နှစ်ဘက်စွန်းစလုံးကိုလည်း မီးလောင်ပြီး၍ အလယ်၌လည်း မစင်ကျင်ကြီးတို့ဖြင့် လိမ်းကျံလျက်ရှိသော လူသေကောင်ကို ထုပ်သည့် ထင်းစတစကိုတောထဲမှာရင်း။ ရပ်ထဲရွာထဲမြို့ထဲမှာရင်း၊ ထင်းအဖြစ်ဖြင့် မည်သူမျှသုံးမည်မဟုတ်။ ဒေါသထွက်သော သူတဦးသည် ထိုထင်းကလားတုံးနှင့်သာ တူ၏။

## ဒေါသထွက်နေချိန်

အဲဒီလိုဘုရားဟောဒေသနာတွေနဲ့ ရန်သူအပေါ်မှာဒေါသထွက်နေတဲ့လူတယောက်ဟာ ကိုယ့်ကိုယ်ကို ဆုံးမရမယ်။ အဲဒီလိုဆုံးမရင် ထွက်နေတဲ့ဒေါသတွေဟာ ပြေတန်ကောင်းတယ်။

၃ အဲဒီလိုဆုံးမလို့မှ ရန်သူအပေါ်မှာ ထွက်နေတဲ့ ဒေါသတွေဟာ မပြေသေးဘူးဆိုရင် မိမိရန်သူမှာရှိတဲ့ ကိုယ်အကျင့် နှုတ်အကျင့် စိတ်အကျင့်ဆိုတဲ့ အကျင့်တွေထဲက မိမိကြည်ညို

တဲ့ နှစ်ခြိုက်တဲ့အကျင့်တခုခုကို အဖန်တလဲလဲ အောက်မေ့ရမယ်။ အဲဒီလို အဖန်တလဲလဲအောက်မေ့ရင် မိမိရဲ့ ဒေါသဟာ ပြေတန်ကောင်းတယ်။

၄ ရန်သူတမျိုးမှာတော့ ဒီလို အောက်မေ့စရာ အကျင့်ကောင်းဆိုလို့ တခုမှမရှိဘူး။ အဲဒီရန်သူတွေကျတော့ တမျိုးလှည့်ပြီး နှလုံးသွင်းရမယ်။

(အဲဒီလူဟာအကျင့်ဘာရားဆိုလို့ ဘာမှမရှိဘူး။ အတိတ်ကံကလေး ကောင်းလို့သာအခုလိုလူသာဖြစ်နေရတယ်၊ ဒါပေမဲ့ အခုလို သူရဲ့ညစ်ညမ်းမှုတွေကြောင့် သေသွားရင် ငရဲကြီး ရှစ်ထပ် ဥဿဒငရဲ တဆယ့် ခြောက်ရပ်တို့မှာ ခံရအုံးမှာ ဘဲလို့ အောက်မေ့ပြီး သနားကြင်နာတဲ့စိတ် ပေါ်လာအောင် နှိုးဆော်ပေးရမယ်။

၅ ဒီလို သနားကြင်နာတဲ့စိတ်ကို နှိုးဆော်ပေးတဲ့ ဒေါသစိတ်ဟာ မပြေသေးဘူးဆိုရင် မိမိကိုယ်ကို အောက်ပါ အတိုင်း ထပ်ပြီး ဆုံးမပေးပါ။

(က) ရန်သူသည် သင့်ကို ဆင်းရဲအောင် လုပ်လို လျှင် ကိုယ်ခန္ဓာကိုသာ ဆင်းရဲအောင်လုပ်နိုင်တယ်၊ သို့ရာတွင် သင်သည် ရန်သူကိုဒေါသထွက်ခြင်းဖြင့် ရန်သူက သင်၏ စိတ်ကိုပါ ဆင်းရဲအောင် လုပ်နိုင်သလို ဖြစ်သွား၏။ ရန်သူ ဝမ်းမြောက်အောင် အဘယ့်ကြောင့် ဒေါသထွက်ချင်သနည်း။

(ခ) သင်သည် မျက်မှောက် တမလွန် နှစ်တန်သော အကျိုးယုတ် အကျိုးမဲ့တို့ကိုပြုတတ်သည့် ရက္ခ၊ ိသ်ဘီလူးပူးဝင်သကဲ့သို့ သင့်အား ဆတ်ဆတ်တုန်စေနိုင်သော ဤအမျက်ဒေါသကို သင်သည် အဘယ့်ကြောင့် မစွန့်နိုင်ပါသနည်း။

(ဂ) သင်သည် ငါးပါးရှစ်ပါးစသော သီလတို့ကို စောင့်ထိန်း၏။ သို့ရာတွင် သီလတို့၏ အရင်းအမြစ်ဖြစ်သော ဟိရိ၊ ဩတ္တပ္ပ၊ ခန္တီ၊ မေတ္တာ၊ ကရုဏာတို့ကို ဖြတ်တတ်သည့်အမျက်ဒေါသကိုကား မွေးမြူလက်ခံထား၏။ သင်နှင့်တူသော လူမိုက်သည် အဘယ်မှာရှိအံ့နည်း။

(ဃ) ရန်သူကယုတ်မာသော ပြစ်မှားမှုကိုငါ့အား ပြုလေပြီဟူ၍ သင်သည်အမျက်ထွက်၏။ ဒေါသ ထွက်ခြင်း သည်လည်း ယုတ်မာသောပြစ်မှားမှုဖြစ်သဖြင့် ထိုရန်သူ၏ ယုတ်မာသော ပြစ်မှားမှုကို ကိုယ်တိုင်ပြုခြင်းငှါ သင်သည် အဘယ့်ကြောင့် အလိုရှိပါသနည်း။

(င) သင့်အား အမျက် ထွက်စေလိုသောကြောင့် သင်၏ ရန်သူသည် သင့်အား မနှစ်သက်ဘွယ်ကိစ္စတခုကို အကယ်၍ ပြုငြားအံ့။ သင်သည် ငါ့ကို ဤရန်သူ ဤလိုပြုလေသည်ဟု အမျက်ဒေါသထွက်ခြင်းဖြင့် အဘယ်ကြောင့် ထိုရန်သူ၏ နှလုံးအလိုကို ဖြစ်စေဘိသနည်း။

(စ) သင်သည်ဒေါသထွက်ခြင်းကြောင့် သင်၏ရန်သူသည် ဒုက္ခဖြစ်ချင်လည်း ဖြစ်သွားမည်၊ မဖြစ်ချင်လည်း မဖြစ်ဘဲ နေမည်၊ သို့ရာတွင် သင်ကိုယ်တိုင်မှာမူကား ဒေါသ ထွက်ခြင်းအားဖြင့် ချက်ချင်း လက်ငင်း စိတ်ဆင်းရဲရပေမည်။ဘာဖြစ်လို့ ဤသို့ ဖြစ်ချင်ရသနည်း။

(ဆ) သင်၏ရန်သူတို့သည် ဒေါသထွက်ခြင်းဖြင့် လမ်းမှားသို့ လိုက်နေကြလေပြီ။သင်သည်လည်း အဘယ်ကြောင့် ဤလမ်းမှားကို လိုက်လိုသနည်း၊

(ဇ) ရန်သူသည် ဒေါသ၏ ကျွန်အဖြစ်သို့ ရောက် ခြင်းကြောင့် ဒေါသက ခိုင်းစေသည့်အတိုင်း သင့်ကို နှိပ်စက် ရ၏။

သင်သည်လည်း ပြန်၍ ဒေါသ ထွက်ခြင်းဖြင့် ဒေါသ၏ ကျွန်အဖြစ်သို့ သင်သည်ရောက်သွား၏။ အဘယ်ကြောင့် ဒေါသ၏ ကျွန်အဖြစ်ကို သင်သည်လိုချင်တော်တဘိသနည်း။

၆ အထက်ပါပြောခဲ့တဲ့နည်းတွေနဲ့လဲ ဒေါသ ပြေအောင် လုပ်လို့မရသေးဘူးဆိုရင် အောက်ပါနည်းနဲ့ထပ်ပြီး ဆုံးမပေးပါအုံး။

**ကံ၏အမွေခံ**

သင်သည် ကံ၏အမွေခံဖြစ်၏။ သင်သည် အကြောင်းကံကိုပြုအံ့။ သင့်သည်ထိုကံ၏အမွေခံဖြစ်လတံ့။ သင်၏ ဤဒေါသ အစွမ်းဖြင့် ဖြစ်သောကံသည် အရဟတ္တမဂ်ဉာဏ်၊ သမ္ဗုဒ္ဓတဉာဏ်ကိုပြီးစေခြင်းငှါမစွမ်းနိုင်၊ ပစ္စေကဗောဓိဉာဏ်ကိုပြီးစေခြင်းငှါ မစွမ်းနိုင်၊ သာဝကဘုံသို့ ရောက်စေခြင်းငှါ မစွမ်းနိုင်၊ ဗြဟ္မာမင်း အဖြစ် သိကြားမင်းအဖြစ်၊ စကြဝတေးမင်း၊ ပဒေသရာဇ်မင်း အစရှိသည်တို့၏ စည်းစိမ်တို့တွင် တပါးပါးသော စည်းစိမ်ကို ပြီးစေခြင်းငှါ မစွမ်းနိုင်၊ စင်စစ်သော်ကား စားကြွင်းစားအစရှိသော သူဆင်းရဲတို့၏အဖြစ်ကိုရင်း၊ အပါယ်ဆင်းရဲကိုရင်း၊ အကျိုးပေးနိုင်၏။

နှစ်ဘက်သော လက်တို့ဖြင့် အလျှံကင်းသော မီးကျီးတို့ကိုရင်း၊ မစင်ကျင်ကြီးကိုရင်းယူ၍ သူတပါးကို ပုတ်ခတ်လိုသောသူသည် မိမိကိုယ်ကိုသာလျှင် ပူလောင်ခြင်းကိုရင်း၊ မကောင်းသော အနံ့ရှိသည်ကိုရင်းဖြစ်စေဘိသကဲ့သို့ ဤဒေါသကံကို ပြုသော သင့်သည်လည်း 'သင့်ကိုယ်ကိုသာလျှင် ဆင်းရဲစေလိမ့်မည်။

၇ အဲဒီလိုဆုံးမလို့လဲ ဒေါသမပြေသေးဘူးဆိုရင် မြတ်စွာဘုရားရဲ့ရှေးကကျင့်တော်မူဘူးခဲ့တဲ့ ဂုဏ်ကျေးဇူးတော်တွေကို ဆက်ပြီးဆင်ခြင်အောင်မေ့ပါ။

သင်သည် မြတ်စွာဘုရား၏ တပည့်သားမဟုတ် ပါလား၊ မြတ်စွာဘုရားသခင်သည် အလောင်းတော်အဖြစ်နှင့် လေးသင်္ချေနှင့် ကမ္ဘာတသိန်း ပါရမီ ဖြည့်ခဲ့ရစဉ်က ညှဉ်းဆဲ သတ်ဖြတ်ခဲ့သည့် ရန်သူတို့ကို စိတ်မျှဖြင့်လည်း မပြစ်မှားခဲ့ပါ။ ၎င်းအဖြစ်များကိုသင်သည်မသိပါသလော။

## သစ္စာရေတိုက်ပြီးသော်

သီလဝဇာတ်မှာအလောင်းတော်သည် ရှင်ဘုရင်ဖြစ်သည်၊ မိမိ၏ မိဖုယားကိုလည်းယူ၊တိုင်းပြည်ကိုလည်းလုခဲ့သည့် ရန်သူကို စိတ်ဖြင့်ပင်မပြစ်မှား။ သူ၏လက်အောက် ငယ်သား များက လက်နက်စွဲကိုင်ပြီး ရန်သူကို ချေမှုန်းမည်ဆိုသည်ကိုလည်း ခွင့်မပြုချေ။ ရန်သူကသတ်ရန်အတွက် သင်းချိုင်းမှာ လည်ပင်းအထိ မြေမြှုပ်ထားသည်ကိုလည်း အာဃာတမထား၊ နောက်ဆုံး၌ ဘီလူး၏တန်ခိုးကြောင့် ရှင်ဘုရင်ပြန်ဖြစ်ရသည့်အခါမှာပင်လျှင် မိမိ၏ထီးနန်းနှင့် မိဖုယားလုခဲ့သောရန်သူအား ရန်ငြိုးမထားဘဲ သစ္စာရေတိုက်ပြီး ၎င်းရန်သူကို မိတ်ဆွေ အရာမှာ ပြန်၍ထားခဲ့ဘူးလေပြီ။

ခန္တီဝါဒီဇာတ်မှာလည်း ကာသိတိုင်းကြီးရှင် ကလာဗုမင်းသည် ခန္တီဝါဒီရှင်ရသေ့ကြီးအား သံဆူးတပ်ထားသော ကြိမ်လုံးဖြင့်ရိုက်၍ လက်ခြေတို့ကို ဖြတ်သော်လည်း ဘုရား အလောင်းတော်ရသေ့ကြီးသည် သည်းခံခဲ့၏။ ရသေ့ကြီးမှာကား အရွယ်ရောက်သည်ဖြစ်၍ သည်းခံနိုင်သည်မှာ အံ့ဩစရာမဟုတ်သေး။ ဓမ္မပါလဇာတ်တော်မှာ မဟာပတာပမင်းကြီးသည် သူ၏သားတော်ကလေးဖြစ်သော ဓမ္မပါလအား လက်ခြေဦးခေါင်းတို့ကို ဖြတ်ခဲ့ဘူးလေပြီ၊ အလောင်းတော် ဓမ္မပါလ မင်းသားက

လေးသည် နှိပ်စက်ကြသည့် လက်မရှိ‚ အာ ဏာ သား များ အားငင်း၊အမိန့်ပေးသည့် မင်းကြီးအားငင်း စိုးစဉ်းမျှ အမျက်မ ထွက်ချေ။

ဆဒ္ဒန်ဆင်မင်းဇာတ်တော်မှာလည်း ဘုရားအလောင်းဆဒ္ဒန် ဆင်မင်းသည် မိမိအား ဆိပ်လူးမြှားဖြင့် ပစ်ထားသော မုဆိုး အားမိမိ၏အစွယ်တို့ကိုကိုယ်တိုင်ဖြတ်ပြီး လှူခဲ့ဘူးလေပြီ။

## သွေးစက်နှင့် လမ်းပြခဲ့၏

ဘုရားအလောင်း မျောက်မင်း ဖြစ်စဉ်ကလည်း ချောက် ထဲ၌ကျနေသော နွားကျောင်းသားတဦးကို အလွန်ခဲယဉ်းစွာ အ သက်စွန့်ပြီးကယ်ခဲ့ရ၏၊ ဤသို့ ကယ်ရသည့် လူမိုက်က မိမိ၏ အသားကိုစားလိုသောကြောင့် မိမိ၏ဦးခေါင်းကို ကျောက်ခဲနှင့် ထုပြီး အသေသတ်ရန်ကြံသည်ကိုပင် ဘုရားအလောင်းသည် အ မျက်မထွက်၊ငင်းလူမိုက်ကိုလမ်းစရှာတွေ့သည်အထိမိမိ၏ခေါင်း မှကျသော သွေးစက်များဖြင့် လမ်းပြပေးခဲ့သေး၏။

ဘုရားအလောင်းတော်ဟာ ဘူရိဒတ်၊ စမ္ပေယျ၊ သင်္ခပါလ နဂါးမင်းများ ဖြစ်စဉ်ကလည်း မိမိတို့ကို နှိပ်စက် သည့် အလမ္ပါယ်များနှင့် မုဆိုးများကို အမျက်မထွက်ဘဲ သည်းခံ ခဲ့ ဘူးသည်မှာ အထင်အရှားပင်ဖြစ်သည်။

မြတ်စွာဘုရားသခင် အဖြစ်သို့ ရောက်သည့် အခါမှာလည်း မြတ်စွာဘုရားသခင်သည် မည်သူနှင့်မျှ မတူအောင် သည်းခံနိုင် သည့်ဂုဏ်တော်များဖြင့် ပြည့်စုံပါပေ၏။

ဤသို့ သူမတူအောင် သည်းခံခြင်း ဂုဏ်တော်တို့ကို အကြိမ် ကြိမ်အောက်မေ့ပြီးလျှင် သင်သည် မြတ်စွာဘုရား၏ တပည့်အ

ဖြစ်ကိုကား ခံယူလျက် ဒေါသနှင့် ယှဉ်သောစိတ်ကို မွေးမြူ
ထားခြင်းသည်မသင့်လျော်ဟူ၍မိမိကိုယ်ကို မိမိဆုံးမအပ်သည်၊

၈ အဲဒီလို ဆုံးမလို့မှ ဒေါသဟာ မပြေသေးဘူး ဆိုရင်
မြတ်စွာဘုရားဟောခဲ့တဲ့ အနမတဂ္ဂသုတ်ကိုဆင်ခြင်အောက်မေ့
ရမယ်။

ဒီအနမတဂ္ဂသုတ်မှာ မြတ်စွာဘုရားက-

အိုရဟန်းတို့-အကြင်သူသည်ရှေးကအမိမဖြစ်စဘူး။အကြင်
သူသည် ရှေးက အဘမဖြစ်စဘူး။ အကြင်သူသည် အကိုမဖြစ်စ
ဘူး၊အကြင်သူသည် နှမမဖြစ်စဘူး၊အကြင်သူသည် သားမဖြစ်စ
ဘူး၊အကြင်သူသည် သမီးမဖြစ်စဘူး၊ ထိုဘဝနီးဝေး ရှေးရှေး
ကာလ မိဘစသည်မဖြစ်ဘူးသသူကို ရလွယ်သော သဘောမရှိ
လို့ဟောထားပါတယ်။

ရင်းသုတ်ကိုဆင်ခြင်ပြီး သင်၏ ရန်သူသည် ဘဝ တခုခုတွင်
သင်၏အမိသော်၎င်း၊ အဘသော်၎င်း၊ နှမသော်၎င်း၊အမသော်
၎င်း၊ညီသော်၎င်း၊အကိုသော်၎င်း၊သားသမီးသော်၎င်း၊တမျိုးမျိုး
နှင့် ဆွေမျိုးတော်စပ်ခဲ့ဘူးလိမ့်မည်။ ထိုရန်သူတို့၏ ကျေးဇူးများ
သည် သင်၏အပေါ်တွင်ရှိနေပေလိမ့်မည်။ထိုသို့ကျေးဇူးရှိသော
သူများအားဒေါသထွက်ခြင်းငှာမထိုက်ဟူ၍လည်း မိမိကိုယ်ကို
ဆုံးမသင့်လေသည်။

၉ အဲဒီလိုဆုံးမလို့လဲ ဒေါသဟာ မပြေသေးဘူး ဆိုရင်
ကျွန်တော်ရဲ့မိန့်ခွန်းအစတုန်းကပြောပြီးခဲ့တဲ့မေတ္တာရဲ့ အကျိုး
ဆယ့်တပါးကိုပြန်ပြီးဆင်ခြင် စဉ်းစားရမယ်။

## လွှင့်စဉ်ပျောက်ကုန်မည်

ရန်သူတွေအပေါ်မှာရှိခဲ့ဘူးတဲ့ဒေါသတွေဟာဘယ်လောက်ဘဲကြီးပေမဲ့ အခုပြောခဲ့တဲ့လက်နက်တွေကို ယုံယုံကြည်ကြည် ဇွဲကောင်းကောင်း ဝီရိယရှိရှိနဲ့သာ သုံးရမယ်ဆိုရင် ဒီဒေါသတွေဟာမခံနိုင်ပါဘူး၊ လွှင့်စဉ် ပပျောက်ကုန်မှာ မြေကြီး လက်ခတ်မလွဲ ဖြစ်ပါတယ်။

အမျက်ထွက်သောသူကို အမျက်မထွက်ခြင်းဖြင့်အောင်ရာ၏။
မကောင်းသောသူကို သူတော်ကောင်းပြုသဖြင့် အောင်ရာ၏။
ဝန်တိုသောသူကိုပေးကမ်းခြင်းဖြင့် အောင်ရာ၏၊
မဟုတ်မမှန်ပြောဆိုတတ်သောသူကို မှန်ကန်သော စကားဖြင့် အောင်ရာ၏။

# မင်္ဂလာတရား

၁၉၆၂-ခု ဇန်နဝါရီလ ၁၂ရက်နေ့က ဗာရာဏသီမြို့ ဟိန္ဒူ တက္ကသိုလ်တွင် ဟောကြားသော နိုင်ငံတော် ဝန်ကြီးချုပ်၏ (မင်္ဂလာဆိုတာ ဘာလဲ) ဟောပြောချက်။

မင်္ဂလာဆိုတာကာယသိဒ္ဓိ၊ ဝီယသိဒ္ဓိ၊ ဓနသိဒ္ဓိအစရှိတဲ့ သိဒ္ဓိအမျိုးမျိုး ပြီးစေတတ်တဲ့ ပစ္စမြားမျက်ရှင်ကြီးနဲ့ တူပါတယ်၊ မင်္ဂလာဆိုတာ မကောင်းတဲ့ဘေးရန်အန္တရာယ်တွေမကျရောက်ရအောင်လဲ တားဆီးနိုင်တယ်၊

အဲဒါကြောင့် မင်္ဂလာကိုလိုချင်တဲ့လူ လက်ညှိုးထောင်လို့ဆိုရင် ကျွန်တော်ကအစ လူကြီးမင်းတွေ အားလုံးလက်ညှိုးထောင်ကြမှာပါဘဲ။

အဲဒီတော့ လူကြီးမင်းများ ခင်ဗျား ဒီကောင်းကျိုးတွေကို ပေးနိုင်ပြီး မကောင်းကျိုးတွေကို တားဆီးပေးနိုင်တဲ့ မင်္ဂလာကို

ရအောင် ကျွန်တော်တို့ ဘာတွေ လုပ်ကြရမလဲ။

မင်္ဂလာကိုရဘို့နဲ့ ပတ်သက်ပြီး လောကမှာ အယူအမျိုးမျိုး ရှိပါတယ်။

တချို့ကလဲကောင်းတဲ့အမြင်ကို မြင်ရရင် မင်္ဂလာရှိတယ်လို့ ယူဆကြတယ်။ အသုဘအစရှိတဲ့ စိတ်မချမ်းသာစရာအမြင်တွေကို မြင်ရရင် မင်္ဂလာမရှိဘူးလို့ ယူဆကြတယ်။

တချို့ကလဲကောင်းတဲ့ အသံကြားရရင် မင်္ဂလာရှိတယ်လို့ ယူဆကြတယ်။ အဲဒါကြောင့် သူတို့နဲ့ သက်ဆိုင်ရာ ပုဂ္ဂိုလ်တွေ ပစ္စည်းတွေ နေရပ်တွေကို အမည်ပေးတဲ့အခါ အင်မတန်ကောင်းတဲ့နာမယ်တွေကို ရွေးပြီးပေးကြတယ်။ မနက်စောစောမှာ ဘယ်လောက် အရေးကြီးကြီး မကောင်းတဲ့သတင်းဆိုရင် မပြောစေရဘူး ကောင်းတဲ့သတင်းစကားကိုသာ ပြောရတယ်။

တချို့ကလဲကောင်းတဲ့ အနံ့ရှူရှိုက်ရရင် ကောင်းတဲ့အစားစားသောက် ရရင် ကောင်းတဲ့အထိအတွေ့နဲ့ ထိတွေ့ရရင် မင်္ဂလာရှိတယ်၊ မကောင်းတဲ့အနံ့ မကောင်းတဲ့အစား မကောင်းတဲ့အထိအတွေ့နဲ့ ထိတွေ့ရရင် မင်္ဂလာမရှိဘူးလို့ ယူဆကြတယ်။

တချို့ကလဲမင်္ဂလာရှိအောင် လက်ဖွဲ့ဆောင်ကြတယ်၊ ဆေးဖယောင်းတိုင် ထွန်းကြတယ်။

တချို့ကလဲမိမိတို့ လုပ်တဲ့အလုပ်အကိုင်၊ မိမိတို့ဆောက်တဲ့ အဆောက်အဦ မိမိတို့ သွားရမဲ့ခရီးဟာ မင်္ဂလာရှိအောင် မင်္ဂလာရှိတဲ့နေ့ရက် မင်္ဂလာရှိတဲ့ အချိန်ကိုရွေးကြတယ်။

## လောကီမင်္ဂလာများသာ

အခုပြောခဲ့တဲ့ မင်္ဂလာရှိအောင်လုပ်တဲ့အလုပ်တွေဟာလောကီနည်းနဲ့လုပ်တဲ့အလုပ်တွေဖြစ်ပါတယ်။ လောကီနည်းဆိုတာ မှန်တာတွေလဲရှိပါတယ်။ မှားတာတွေလဲ ရှိပါတယ်။အဲဒီတော့

ဒီနည်းတွေအတိုင်းလုပ်ရင် မင်္ဂလာရနိုင်တယ်လို့ တထစ်ချ မပြောနိုင်ပါဘူး၊ မင်္ဂလာရချင်လဲရမှာဘဲ၊ မရချင်လဲနေမှာပါဘဲ။

မင်္ဂလာကို တထစ်ချရအောင် လုပ်ပေးနိုင်တဲ့ နည်းတွေဟာ ဒီလောကကြီးမှာ နေလိုလသို အထင်အရှားရှိနေပါတယ်။ အဲဒီ နည်းတွေဟာ လူသာမန်၊ နတ်သာမန် ဗြဟ္မာသာမန်တွေက ပေးတဲ့ နည်းမဟုတ်ပါဘူး။

လေးသင်္ချေနှင့် ကမ္ဘာတသိန်း ပါရမီဖြည့်ပြီးတဲ့အတွက် ကျေးဇူးတော်အစုံ ဂုဏ်တော်အလျှံ၊ ဉာဏ်တော်အနန္တနဲ့ ပြည့်စုံတော်မူတဲ့ မြတ်စွာဘုရားသခင်ပေးတော်မူခဲ့တဲ့ နည်းတွေ ဖြစ်ပါတယ်၊

အရဟံအစ၊ ဘဂဝါအဆုံး ကိုးပါးသောဂုဏ်တော်တွေ နဲ့ ပြည့်စုံတော်မူတဲ့မြတ်စွာဘုရားသခင် ပေးတော်မူခဲ့တဲ့နည်း တွေဖြစ်ပါတယ်။

ဣဿရိယ၊ ဓမ္မ၊ ယသ၊ သိရီ၊ ကာမ၊ ပယတ္တ တည်းဟူသော ဘုန်းတော်ခြောက်ပါးနဲ့ ပြည့်စုံတော်မူတဲ့ မြတ်စွာဘုရားသခင် ပေးတော်မူခဲ့တဲ့ နည်းတွေဖြစ်ပါတယ်။

လူမင်း၊ နတ်မင်း၊ ဗြဟ္မာမင်းတို့ရဲ့ ပူဇော်အတူးကိုခံတော် မူထိုက်တဲ့ ဉာဏ်တော် ၁၀ ပါးနဲ့ ပြည့်စုံတော်မူတဲ့ မြတ်စွာ ဘုရားသခင် ပေးတော်မူခဲ့တဲ့ နည်းတွေဘဲဖြစ်ပါတယ်။

## ဘာကြောင့် ဘုရားပေးခဲ့သလဲ

ဒီနည်းတွေကို မပြောခင်ဘယ်လို အကြောင်းကြောင့်ဒီနည်း တွေကို မြတ်စွာဘုရားသခင် ပေးပစ်ခဲ့တယ် ဆိုတာကိုအကျဉ်း ချုပ်ပြီး ပြောပါရစေ။

အခါတပါးမြတ်စွာဘုရားဟာသာဝတ္ထိမြို့အနီးအနာထပိဏ်သူဌေးဆောက်လုပ်လှူဒါန်းတဲ့ ဇေတဝန်ကျောင်းတိုက်ကြီးမှာ သီတင်းသုံးနေတော်မူပါတယ်။ အဲဒီအခါအမျိုးအမည်အားဖြင့် မထင်ရှားတဲ့ အင်မတန် နှစ်လိုဘွယ် အဆင်းရှိတဲ့ နတ်သား တပါးဟာ ညဉ့်ဦးယံလွန်ပြီး သန်းခေါင်အချိန်လောက်မှာမြတ်စွာဘုရားဆီကို ရောက်လာပါတယ်။ သူ့ကိုယ်ရောင် ကိုယ်ဝါ တွေနဲ့ ဇေတဝန်ကျောင်းတိုက် တတိုက်လုံးဟာ ထိန်ထိန်လင်း နေပါတယ်။မြတ်စွာဘုရားအနီးကို ရောက်တဲ့အခါ ဒီနတ်သား ဟာ အင်မတန်ရိုရိုသေသေရှိခိုးပြီး-

ဘုန်းတော်ကြီးသော မြတ်စွာဘုရား။

နိဗ္ဗာန်ချမ်းသာကို လိုချင်တောင့်တနှစ်သက်ကြတဲ့ နတ်လူ အများတို့ဟာ သတ္တဝါအများ ကြီးပွားချမ်းသာကြောင်းဖြစ်တဲ့ မင်္ဂလာတရားတော်ကို ကြံစည်ခဲ့ကြပါတယ်ဘုရား။ဒီလိုကြံစည်ပေမဲ့လဲ၊ ကြံစည်လို့မရပါဘူးဘုရား။

ဘုန်းတော်ကြီးသော မြတ်စွာဘုရား။

ဒီထူးမြတ်လှတဲ့ မင်္ဂလာတရားတော်ကို ဟောကြားတော်မူပါဘုရားလို့ လျှောက်ကြားတောင်းပန်ပါတယ်။

## ၃၈-ဖြာ မင်္ဂလာ

အဲဒီအခါမှာ မြတ်စွာဘုရား သခင်ဟာ သုံးဆယ့်ရှစ်ဖြာရှိတဲ့ မင်္ဂလာတရားတော်တွေကို ဟောကြားတော်မူခဲ့ပါတယ်။

ဒီမင်္ဂလာတရားတွေကတော့-

၁ သူမိုက်တို့ကို မမှီဝဲမဆည်းကပ်ခြင်း။ ၂ ပညာရှိတို့ကို မှီဝဲဆည်းကပ်ခြင်း။ ၃ ပူဇော်ထိုက်သူတို့ကိုပူဇော်ခြင်း။ ၄ လျော်ကန်သင့်မြတ်သော အရပ်၌ နေထိုင်ခြင်း။ ၅ ရှေးရှေးဘဝ၌ပြုခဲ့

ဘူးသော ကုသိုလ်ကောင်းမှုရှိသူဖြစ်ခြင်း။ ၆ အကျင့်တရား မပျက်ပြားအောင် မိမိကိုယ်စိတ်ကိုကောင်းစွာထိန်းသိမ်းစောင့် ရှောက်ခြင်း။ ၇ အကြားအမြင်များသောသူဖြစ်ခြင်း။ ၈ လက်မှု ပညာအစရှိသော အတတ်တို့ကို တတ်မြောက်ခြင်း။ ၉ ဝိနည်း တရားတော်ကို ကောင်းစွာသင်ကြားထားခြင်း။ ၁၀ ကောင်း သောစကားကို ပြောဆိုခြင်း။ ၁၁ အမိအဘတို့ကို ကောင်းစွာ လုပ်ကျွေးမွေးမြူခြင်း။ ၁၂ သားမယားတို့ကို ကောင်းစွာချီး မြှောက်ထောက်ပံ့ခြင်း။ ၁၃ လယ်လုပ်ကုန်သွယ် ရောင်းဝယ် ခြင်းစသော အပြစ်ကင်းသော အလုပ်ကို လုပ်ခြင်း။ ၁၄ စွန့်ကြဲ ပေးကမ်းလှူဒါန်းခြင်း။ ၁၅ သုစရိုက်တရား ဆယ်ပါးကိုကျင့် သုံးခြင်း။ ၁၆ အဆွေအမျိုးတို့ကို ချီးမြှောက်ထောက်ပံ့ခြင်း ၁၇ ဥပုသ်စောင့်ခြင်း၊ ရေတွင်းရေကန်တူးခြင်းစသော အပြစ် ကင်းသော အလုပ်တို့ကို ပြုလုပ်ခြင်း။ ၁၈ မကောင်းမှုမှ စိတ် ဖြင့်ဝေးစွာ ရှောင်ကြဉ်ခြင်း။ ၁၉ မကောင်းမှုမှကိုယ်နှုတ်တို့ဖြင့် အထူးရှောင်ကြဉ်ခြင်း။ ၂၀ သေရည်သေရက် သောက်ခြင်းမှ ဝေးစွာ ရှောင်ကြဉ်ခြင်း။ ၂၁ ကုသိုလ်ကောင်းမှုတို့၌ မမေ့ မလျော့ခြင်း။ ၂၂ ရိုသေထိုက်သော သူတို့ကို ရိုသေခြင်း။ ၂၃ မာန်မာနကိုနှိမ့်ချခြင်း။ ၂၄ ရသမျှဖြင့် ရောင့်ရဲလွယ်ခြင်း။ ၂၅ သူတပါးကပြုဘူးသောကျေးဇူးကိုသိတတ်ခြင်း၊ ၂၆ သင့် လျော်သောအခါ၌ သူတော်ကောင်း တရားကိုနာယူခြင်း။ ၂၇ သည်းခံခြင်း။ ၂၈ သူတော်ကောင်းတို့ဆုံးမအပ်သောစကားကို နာယူလွယ်ခြင်း။ ၂၉ ရဟန်းသူမြတ်တို့ကို ဖူးမြင်ခြင်း။ ၃၀ သင့်လျော်သောအခါ၌ တရားစကားကို ဆွေးနွေးမေးမြန်းခြင်း ၃၁ ခြိုးခြံစွာကျင့်ခြင်း။

၃၂ မြတ်သော အကျင့်ကိုကျင့်ခြင်း၊ ၃၃ အရိယာသူတော်

ကောင်းတို့၏သစ္စာလေးပါးတရားကိုသိမြင်ခြင်း။ ၃၄ အရဟတ္တဖိုလ် ချမ်းသာကို မျက်မှောက်ပြုခြင်း။ ၃၅ လောကဓံတရား ရှစ်ပါးတို့နှင့် တွေ့ကြုံရသော ရဟန္တာ၏ စိတ်သည်မတုန်မလှုပ်ခြင်း။ ၃၆ စိုးရိမ်ကြောင့်ကြခြင်းလည်း မရှိခြင်း။ ၃၇ ကိလေသာ ရမ္မက်တို့လည်း မြူခန့်မျှမရှိခြင်း။ ၃၈ ကြောက်လန့်စိတ်ကြောင့် ဖြစ်သော ဘေးလည်းမရှိခြင်းတို့ပင် ဖြစ်ပါတယ်။

ဒီသုံးဆယ့်ရှစ်ဖြာမင်္ဂလာကိုတပါးစီရှင်းပြချင်ပါတယ်။ ၁ သူမိုက်တို့ကို မမှီဝဲ မဆည်းကပ်ခြင်းဟာ မင်္ဂလာတပါး ဖြစ်ပါတယ်။

## လူမိုက်နှင့်ပေါင်းလို့

အဲဒီလိုဆိုရင် လူမိုက်ဆိုတာ ဘယ်လိုလူစားမျိုးလဲဆိုတာကို သိဘို့လိုလိမ့်မယ်။

အကြားအမြင် ဗဟုသုတလဲမရှိဘူး၊ ကိုယ်ကျင့်တရားလဲမရှိဘူး။ အကြားအမြင် ဗဟုသုတတခုရှိတယ်၊ ကိုယ်ကျင့်တရား မရှိဘူး။

အဲဒီလူ ၂မျိုးစလုံးဟာ လူမိုက်တွေဘဲ၊

လောကီကျိုး၊ လောကုတ္တရာကျိုး နှစ်ပါးစလုံးကို ရအောင် အားမထုတ်နိုင်တဲ့အတွက် နှစ်ဘက်ကန်းနဲ့တူတဲ့လူ။

လောကီကျိုးကိုသာအားထုတ်နိုင်ကြပြီး လောကုတ္တရာကျိုးကိုရအောင် အားမထုတ်နိုင်တဲ့အတွက် တဘက်ကန်းနဲ့တူတဲ့လူ၊ အဲဒီလူနှစ်ယောက်စလုံးလဲလူမိုက်တွေဘဲ။

အမိုက်တွေနဲ့ ပေါင်းဖော်မိတဲ့အတွက် အကောင်းတွေလဲ ပျက်စီးသွားရတဲ့ သာဓကတချို့ကို ကျွန်တော် ထုတ်ပြချင်ပါတယ်။

(က) မြဟ္မဒတ် မင်းကြီးရဲ့ အင်မတန် စိတ်နှလုံးနူးညံ့ပြီး မြေကြီးနဲ့တူတဲ့ သည်းခံခြင်းဂုဏ်နဲ့ပြည့်စုံတဲ့ မဟိင္သာမုခဆင်တော်ဟာသူ့အနီးအနားမှာ မကြာမကြာလာပြီး တိုင်ပင်ကြတဲ့ သူခိုးတွေရဲ့စကားကို ကြားရဘန်များလာတဲ့အခါ အင်မတန်ကြမ်းကြုတ်ခက်ထန်တဲ့ ဆင်တော်ကြီးဖြစ်သွားခဲ့ဘူးပါတယ်။

(ခ) ဂိရိဒတ္တလို့ခေါ်တဲ့ ခြေခွင်တဲ့မြင်းထိန်းနဲ့ ကြာရှည်နေရတဲ့အတွက် ဗာရာဏသီပြည့်ရှင် သာမဘုရင်ရဲ့ အင်မတန်ကြန်အင်လက္ခဏာနဲ့ ပြည့်စုံတဲ့ ပဏ္ဍဝမြင်းတော်ဟာ ခြေခွင်သွားခဲ့ရတဲ့ သာဓကလဲ အထင်အရှားရှိပါတယ်။

(ဂ) အဆိပ်လူးတဲ့မြှားနဲ့အတူ ထားရင် အဆိပ်မရှိတဲ့မြှားလဲအဆိပ်လူးသွားပါတယ်။

(ဃ) ရွှံ့လူးတဲ့ကျွဲရဲ့နောက်ကလိုက်တဲ့ ကျွဲဟာ ရွှံ့အပေခံရပါတယ်။

(င) ငါးပုပ်ကိုထုတ်တဲ့ဖက်ဟာ ပုပ်တဲ့အနံ့ ထွက်လာပါတယ်။

(စ) ခွေးတောက်ပင် တမာပင်တို့ရဲ့ ရောရှက်တဲ့အတွက် ဒဓိဝါဟနမင်းကြီးရဲ့အင်မတန်ချိုမြိန်ကောင်းမြတ်တဲ့ အရသာနဲ့ပြည့်စုံတဲ့ အမ္ဗ္ဗရ သရက်ပင်ဟာ ခါးတဲ့သရက်သီးကို သီးခဲ့ဘူးပါတယ်။

၂ ပညာရှိတို့ကို မှီဝဲဆည်းကပ်ခြင်းဟာလဲ မင်္ဂလာတပါးဖြစ်ပါတယ်။အဲဒီလိုဆိုရင် ပညာရှိဆိုတာဘယ်လိုလူစားလဲ။

(က) အကြောင်း အကျိုး အကောင်း အဆိုး ကုသိုလ် အကုသိုလ်မှီဝဲအပ် မမှီဝဲအပ်တဲ့တရား ယူသင့်ပယ်သင့်တဲ့တရားတွေကို သိတဲ့လူဟာပညာရှိဖြစ်တယ်။

(ခ) အကြားအမြင်မဟုသုတနဲ့ ပြည့်စုံချင်လဲ ပြည့်စုံမယ်၊ မပြည့်စုံချင်လဲနေမယ်၊ဒါပေမဲ့ တရားကိုကျင့်တဲ့လူဟာ ပညာရှိ ဖြစ်တယ်။

(ဂ) လောကီကျိုး၊ လောကုတ္တရာကျိုး နှစ်ပါးစလုံးကို ရအောင် အားထုတ်တဲ့လူဟာ ပညာရှိဖြစ်တယ်။

(ဃ) သုစရိုက်တရားဆယ်ပါးနဲ့ ပြည့်စုံတဲ့လူဟာ ပညာ ရှိဖြစ်တယ်။

(င) ကောင်းစွာကြံတတ်၊ ကောင်းစွာပြောတတ်၊ကောင်း စွာလုပ်တတ်တဲ့လူဟာ ပညာရှိဖြစ်တယ်။

သာဓက

အကောင်းနဲ့ပေါင်းဖေါ်မိတဲ့အတွက် အကောင်းဖြစ်သွား ရတဲ့ သာဓကတွေကိုထုတ်ဖေါ်ပြလိုပါတယ်။

(က) အနံ့ကင်းတဲ့ ပေါက်ရွက်ဟာ မွှေးကြိုင်သင်းပျံ့တဲ့ အနံ့ရှိတဲ့ တောင်ဇလပ်ပန်းနဲ့ ပေါင်းဖက်ရတဲ့အတွက် မွှေး ကြိုင်တဲ့အနံ့ကိုရလိုက်ပါတယ်။

(ခ) အဖိုးမသိုက်တဲ့ ပိုးစကလေး တစဟာ မြတ်လေးပန်း ကိုစည်းတဲ့နေရာမှာ အသုံးခံရတာနဲ့ လူတို့ရဲ့ ခေါင်းပေါ်ကို ရောက်ရပါတယ်။

(ဂ) ပုပ္ပက အမည်ရှိတဲ့ ကျေး သား ငယ် ဟာ သူတော် ကောင်းဖြစ်တဲ့ရသေ့တို့နဲ့ ပေါင်းဖေါ် ရတဲ့အတွက် လိမ္မာ ယဉ်ကျေးလာရခဲ့ဘူးပါတယ်။

(ဃ) အမုန်ယစ်တဲ့တောဆင်ရိုင်းကြီးဟာလိမ္မာတဲ့ဆင်ဦး စီးနဲ့ ပေါင်းဖေါ်ရတဲ့အတွက် လိမ္မာ ယဉ်ကျေးတဲ့ အဖြစ်ကို ရောက်လာရပါတယ်။

လူကြီးမင်းများခင်ဗျား။

## လူမိုက်ဟူသည်

လူမိုက်နဲ့ ပေါင်းလို့ ပျက်စီးရပုံနဲ့ ပညာရှိနှင့် ပေါင်းလို့ ချမ်းသာရပုံကို ပိုမိုထင်ရှားစေချင်တဲ့အတွက် နိပါတ်တော်ထဲမှ သာဓကတခုကိုဖော်ပြလိုပါတယ်။

လှည်းကုန်သည် အကြီးအမှူး ၂ ဦး ဝတ္ထု
(ဇာတကအဋ္ဌကထာမှ တိုက်ရိုက်ဘာသာပြန်ဆိုချက်)

လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်း မင်းပြုစဉ် ဘုရားလောင်းသည် လှည်းကုန်သည်မျိုး၌ဖြစ်၍ လှည်းပေါင်း ၅၀၀ ( ငါးရာ)တို့ဖြင့် ကုန်သွယ်ခြင်းအမှုကို ပြုလုပ် နေလေသည်။

ထိုဗာရာဏသီပြည်ထဲ၌ပင် ဘုရား လောင်းကဲ့သို့ လှည်းပေါင်း ၅၀၀(ငါးရာ)တို့ဖြင့် ကုန်သွယ်နေသူ လှည်းကုန်သည်မှူးတဦးလည်းရှိ၏။ ၎င်းကား ဉာဏ်ပညာမရှိ၊ မလိမ္မာ။ ရှေ့ရေး နောက်ရေး မတွေးခေါ်တတ်။ သို့ဖြစ်၍ ၎င်းကို ဤဝတ္ထုထဲ၌ ဗာလဟူသော နာမည်ဖြင့် မှည့်ခေါ်ရေးသား သွားပေအံ့။ ဘုရားလောင်းလှည်းကုန်သည်မှူးသည် လှည်းပေါင်း ငါးရာတို့ဖြင့် တခါတရံ အရှေ့ဘက်နယ်စွန်းမှ အနောက်ဘက်နယ်စွန်း သို့၎င်း၊ တခါတရံ အနောက်ဘက်နယ်စွန်းမှ အရှေ့ဘက် နယ်စွန်းသို့၎င်း သွားလာရောင်းဝယ်လေ့ရှိပေ၏။ ဤအချိန် သည်ကား ဘုရားလောင်းသည် ဗာရာဏသီပြည်မှအဖိုးတန် ဘဏ္ဍာများကိုတင်ဆောင်၍ လှည်းပေါင်းငါးရာဖြင့်ခရီးထွက်ရန်စီမံနေ သောအခါဖြစ်လေ၏။ ဗာလလှည်းကုန်သည်မှူးလည်း ထို့နည်း တူစွာ လှည်းငါးရာဖြင့် ခရီးထွက်ရန် စီမံနေလေ၏။ ဘုရား လောင်းသည် ခရီးထွက်ရေးအတွက် ဤသို့အကြံဖြစ်၏။

ဗာလသည် ငါနှင့်အတူဘူခရီးထွက်ဘို့ စီမံနေသည်။ လှည်း ပေါင်း၁၀၀၀(တထောင်) တပေါင်းတည်း သွားလျှင် လမ်း ခရီးလည်း မလောက်မငဖြစ်မည်။ ထင်းရေ စသည်တို့အတွက် လည်း အခက်အခဲကြုံမည်။ နွားများအတွက်လည်း မြက်ရဘို့မ လွယ်ဘူး။သူသေ်ာဂုင်း၊ငါသေ်ာဂုင်း၊ တဦးဦးက အရင်သွားနှင့် လျှင်ကောင်းမည်ဟု အကြံဖြစ်လေ၏။ဤသို့ဖြစ်၍ ဗာလကို ခေါ်ငင် ကာ ထိုအကြောင်းကိုတိုင်ပင်ပြီး။

၂ဦးလုံးအတူဘူသွားရင် အခက်အခဲတွေအမျိုးမျိုးတွေ့မည်။ ခွဲသွားမှဖြစ်မည်။ဒါကြောင့်သင်ကအလျင်သွားမည်လား၊ကျွန်ုပ် ကအလျင်သွားရမည်လား၊ သင်ကြိုက်ရာကို ရွေးစေချင်တယ်ဟု ပြောပြလေ၏။

ဗာလသည် စဉ်းစား၏။ စဉ်းစားပုံကား။

အလျင်သွားရလျှင် ခရီးလမ်းခတွေ မပျက်စီးမီ သွားရမည်။ နွားများလည်းတခြားနွားတွေမစားရသေးတဲ့ မြက်သစ်မြက်ဦး တွေ စားရမည်။လူများအတွက်လည်း သူတပါးတို့ မခူးမဆွတ်ရ သေးတဲ့ ဟင်းချက်ဘို့ အရွက်အညွန့်တွေရလိမ့်မည်။ ရေအတွက် လည်း မနောက်မကျိသေးတဲ့ ရေကြည်ကိုသုံးရမည်။ ပစ္စည်း ဘဏ္ဍာရောင်းရာမှာလည်း ထင်သလို အဖိုးနှုန်းဖြတ်ပြီး ရောင်း နိုင်သည်ဟု စဉ်းစားလျက် မိမိအလျင်သွားမည့်အကြောင်း ပြန် ကြားပြောဆိုလေရာ ဘုရားလောင်းသည် အောက်ပါ အတိုင်း စဉ်းစားကာ သဘောတူလိုက်လေ၏။ ဘုရားလောင်းစဉ်းစားပုံ ကား။

နောက်မှလိုက်ရလျှင် အလျင်(ယခင်)သွားသူနှင့် သူကခရီး လမ်း မညီမညွတ်ရှိသည်ကို ညီညွတ်အောင် ပြုပြင်သွားရသဖြင့်

နောက်မှလိုက်သူအတွက် အဆင်သင့်ဖြစ်ခြင်း၊ နွားများအတွက်လည်းအလျင်သွားနှင့်သူတို့၏နွားများသည် မြက်ဟောင်း မြက်ကြမ်းတို့ကိုစားကြရကုန်လတ္တံ့။ နောက်မှလိုက်သူ ငါတို့၏ နွားများသည် နောက်ထပ်တဖန် အသစ်ပေါက်ကုန်သော မြက်နုမြက်ချိုတို့ကို စားကြရလိမ့်မည်။ လူများအတွက်လည်း အလျင်သွားနှင့်သူတို့ ခူးဆွတ်အပ်ပြီးသော အကိုင်း အခက်မှ အတက်အညွန့်ပေါက်လာသော ဟင်းရွက် ဟင်းညွန့်တို့ကို ချိုမြိန်စွာ စားကြရကုန်လတ္တံ့။ အလျင်သွားနှင့်သူတို့သည် ရေမရှိသောအရပ်၌ရေတွင်းတူး၍ရေရှိအောင်လုပ်သွားကြရလိမ့်မည်။နောက်မှလိုက်သူ ငါတို့သည် သူတို့တူးခဲ့သောရေတွင်းများ၌ အဆင်သင့်ရေကိုသုံးဆောင်ကြရလိမ့်မည်။ ပစ္စည်းဥစ္စာကို တန်ဘိုးဖြတ်ခြင်းမည်သည်မှာ လူတို့၏ အသက်ဇီဝိန်ကို သတ်ဖြတ်ခြင်းလောက် အရေးကြီး၏။ နောက်မှလိုက်သူသည် အလျင် သွားနှင့်သူတို့ဖြတ်ထားသော တန်ဘိုးဖြင့် အလွယ်တကူ ဝယ်ယူသွားစွာ ရောင်းနိုင်၏ဟူ၍ စဉ်းစားခြင်းဖြစ်ပေ၏။

## ကန္တာရခရီး

လည်းကုန်သည်မှူး ဗာလ ခရီးထွက်ခဲ့ခြင်း။ အထက်ပါအတိုင်း နှစ်ဦးသဘောတူညီချက်အရ လှည်းကုန်သည်မှူးဗာလသည် လှည်းပေါင်း ၅၀၀ဖြင့် ကုန်များကိုတင်ဆောင်ကာ ခရီးထွက်လာခဲ့ရာ လူ့ဘုံနေရာကိုကျော်လွန်၍ ဘီလူးတို့ နေရပ်ဖြစ်သော အမနုဿကန္တာရသို့ရောက်လာခဲ့လေ၏။ထိုကန္တာရကား ဘီလူးတို့နေရာအရပ်ဖြစ်ရုံမက ရေမရှိသော နိရုဒက ကန္တာရလည်းဖြစ်ပေ၏။ထိုကန္တာရခရီး ကား ယူဇနာ ၆၀ အတိုင်းအ

ရှည်ရှိ၏၊ (ယူဇနာယူပုံမှာ ၂ မျိုးရှိ၏။ ၇ တောင်တာနှင့် တွက်လျှင် တယူဇနာသည် ၁၂ မိုင်ခွဲနှင့်ညီမျှ၏။ ၄ တောင်တာနှင့် တွက်လျှင် တယူဇနာသည် ၇.၂၇ (၇မိုင်နှင့် ဒသမ ၂၇)နှင့် ညီမျှ၏။ (မှတ်ချက်။ ။ကန္တာရဟူသော စကားမှာ ပါဠိစကားအစစ်ဖြစ်ရာ မြန်မာဘာသာပြန်ဆိုလျှင် သွားလာခြင်းငှါခက်ခဲသော ခရီးလမ်းဟု အဓိပ္ပါယ်ရ၏)။

ဗာလသည် ထိုကန္တာရကို ကျော်လွှန်နိုင်ရန် လှည်းများစွာတို့၌ ကြီးမားသော အိုးကြီးတို့ကို တင်စေ၍ ရေအပြည့်ထည့်ကာ ရေအတွက် အခက်အခဲမရှိရန် စီမံပြီး ယူဇနာ ၆၀ ရှိသော ကန္တာရခရီးကို ဝင်ရောက်စိုင်းနှင်ခဲ့လေရာ ကန္တာရ၏ အလယ်သို့ ရောက်လာခဲ့လေ၏။ ထိုအခါ ကန္တာရ၌ ကြီးမှူး နေထိုင်သော ဘီလူးသည် ဤသူတို့ယူလာသော ရေကိုစွန့်စေ၍ အစာရေစာငတ်ကာ အားနည်းအောင်ပြုပြီး အလုံးစုံသော သူတို့ကို စားလိုက်အံ့ဟု ကြံစည်ကာ၊

အဖြူရောင်တောက်နေသော နွားပျိုနှစ်ကောင်ကသည့် လှပသော လှည်းယာဉ်ကိုဖန်ဆင်းလျက် ရေညွန်တို့ဖြင့် လိမ်းကျံ အပ်ကုန်သော လူယောင်ဆောင်ထားသည့် လက်နက်ကိုင်ဘီလူး တကျိပ်နှစ်ယောက်တို့ခြံရံပြီး ကြာညို၊ ကြာဖြူ၊ကြာနီတို့ကို ပန်ဆင်၍ ဆံပင်ရိုရို အဝတ်စိုရိုနှင့် အစိုးရ အရာရှိ တဦး ပမာ လှည်းယာဉ်ပေါ်တွင်ထိုင်ပြီး ဟန်ပါပါနှင့် လိုက်လာ ခဲ့လေ၏။ လှည်းဘီးတွင်လည်း ညွန်တို့ဖြင့် လိမ်းကျံ ပေရေ နေလေ၏။ လက်နက်ကိုင် ခြံအရံ ၂ ယောက်တို့မှာလည်း ဆံပင် စိုစိုအဝတ်စိုစိုနှင့် ကြာဖြူ၊ ကြာညို၊ ကြာနီတို့ကိုပန်ဆင်၍ ပဒုမ္မာကြာစည်း၊ ပုဏ္ဍရိက်ကြာစည်းတို့ကိုလည်း လက်တွင်ကိုင်လျက် ကြာစွယ်၊ ကြာရင်းတို့ကို စားရင်း ကိုယ်ကာယမှာလည်း ရေ

ပေါက်များ တစက်စက်ယိုကျကာ ရွှံ့များပေကျံစွာနှင့်လိုက်ပါလာကြလေ၏၊ ထိုဘီလူး၏ လှည်းယာဉ်သည် ဗာလတို့မရောက်ရသေးသည့် ကန္တာရထဲမှ ထွက်လာရာ ဗာလတို့နှင့် ရင်ဆိုင် တိုးနေလေ၏။ ဘီလူးသည် မိမိ၏လှည်းကို လမ်းပေါ်မှ ဘေးသို့ ရှောင်၍ဖယ်ပေးရင်း-

မောင်ရင်တို့ကဘယ်ကလာကြတာလဲဟု နှုတ်ဆက် မေးမြန်းလိုက်လေ၏။ လှည်းကုန်သည်မှူးဗာလကလည်း မိမိ လှည်းကို လမ်းပေါ်မှ ဘေးသို့ ဖယ်ထားလျက် အခြား မိမိ၏ ငယ်သားလှည်းများကိုသွားစေကာ ခေတ္တရပ်နားပြီး ဘီလူးနှင့် စကားပြောလေ၏။

## ကြာမျိုးငါးပါးရေအိုင်

ဗာလ။ ။ကျွန်တော်တို့က ဗာရာဏသီပြည်မှ လာခဲ့ကြတာပါ။ ခင်များတို့မှာ ကြာပန်းတွေ ပန်ဆင်ပြီး လက်ကလဲ ကြာစည်းကြီးတွေယူငင်လာကြတယ်။ ကြာစွယ် ကြာမြင်းခွာလဲ စားလာကြတယ်။ ညွန်အလိမ်းလိမ်း ရွှံ့အလိမ်းလိမ်းနှင့် လူတွေမှာလဲ ရေစက်တွေစိုလို့ ဘယ်လိုလဲ၊ ခင်များ [illegible]လာတဲ့လမ်းမှာ မိုးရွာသလား၊ သို့မဟုတ်လဲ ကြာမျိုးငါးပါး[illegible]လွှမ်း[illegible]ရေအိုင်တွေရှိသလား။

ဘီလူး။ ။ဘယ်လိုပြောလိုက်တာလဲမိတ်ဆွေ- ညို့[illegible]နေတဲ့ သည်တောအုပ်ကြီးကို မြင်တယ်မှတ်လား၊ အဲသည်[illegible]ပြီး တောအုပ်ကြီးတခုလုံးဟာ ရေပြင်တဆက်ထည်း ဖြစ်နေအောင် အမြဲတမ်းမိုးရွာနေတာဘဲ ချောက်တွေမှာလဲ ရေတွေလျှံနေတယ်။ ထိုထိုအရပ်တွေမှာ ပဒုမ္မ [illegible] ကြာမျိုးငါးပါးဖုံးလွှမ်းတဲ့ ရေအိုင်တွေ ပြည့်နေ တာပေါ့။ နေပါဦး မိတ်ဆွေ တို့ က လှည်းပေါင်းများစွာနှင့် ဘယ်သွားကြမှာလဲ။

ထိုအခါ ဗာလက မိမိတို့သွားမည့် ဇာနည်ပုဒ်အမည်ကို ပြောပြရာ ဘီလူးက ဒီလှည်းတွေမှာ ဘယ်လိုပစ္စည်းတွေ တင်လာသလဲ ဟု မေးလိုက်၏၊ ဗာလလည်း မိမိတို့ တင်ဆောင်လာသော ပစ္စည်းတို့ကိုပြောပြရာ၊ ဘီလူးကနောက်ပိုင်းကလာတဲ့ လှည်းတွေကတော့ ဝန်လေးကြီးတွေနှင့်ပါလား။ ဘာတွေ တင်လာလို့လဲ ဟု ထပ်မံ မေးမြန်း လိုက်လေမှ၊ ရေတွေ တင်ဆောင် လာကြကြောင်းပြောပြလိုက်သည်တွင် ဘီလူးကနောက်ကပြီးခဲ့တဲ့ ခရီးမှာ ခင်များတို့ရေတွေတင်လာခဲ့တာ နှစ်မြို့ကစရာပါဘဲ။ ယခု ဒီအရပ်ကစပြီးမှ ရှေ့သွားမည့်ခရီးမှာတော့ ရေတင်ဘို့ မလိုတော့ဘူး။ ရှေ့မှာရေတွေအများကြီးရှိနေပြီ ရေအိုးတွေရိုက်ခွဲ။ ရေတွေသွန်ပြီး ဝန်ပေါ့ပေါ့နှင့် ချမ်းချမ်းသာသာ သွားကြပေတော့ ဟု ပြောဆိုလျက်–

ကဲ ခင်များတို့သွားကြပေတော့ ကျုပ်တို့လဲ အချိန်ကြာသွားပြီဟုဆိုကာ ခရီးဆက်လက်ထွက်သွားလေ၏။ ဘီလူးသည် ဗာလတို့ မျက်စိတဆုံးလှိုင်အောင်လှည်းဖြင့် သွားချင်ယောင်ဆောင်ပြီး မိမိ၏ဘီလူးမြို့သို့ ပြန်သွားလေ၏။

လှည်းကုန်သည်မှူး ဗာလသည် အမြော်အမြင် ဉာဏ်ပညာ မရှိသဖြင့် ဘီလူး၏စကားကိုယုံကြည်ကာ တင်လာခဲ့သမျှရေအိုးတို့ကိုရိုက်ခွဲစေ၍ တလက်ခုပ်မျှလောက်သောရေကိုပင် အကြွင်းအကျန်မထားစေဘဲ၊ ရေအားလုံးကို သွန်မှောက် စွန့်ပစ်စေ၍ ပေါ့ပေါ့ပါးပါးခရီးနှင်ခဲ့ရာ၊ လမ်းခရီး တလျှောက်လုံး ရေကိုလုံးဝ မတွေ့ရဘဲ ရေအတွက်အခက်ကြုံကာ ရေမသောက်ကြရသဖြင့် လူအားလုံးတို့မှာ ဒုက္ခရောက်ကြရလေကုန်၏၊ လူတို့သာ ဒုက္ခရောက်ကြသည်မဟုတ် နွားတို့လည်း ရေမသောက်ကြရသဖြင့်

ရေငတ်ကာသေလုမဘတ်ဖြစ်ကြရကုန်၏။ရေမရှိသဖြင့် ယာဂုကျို ရန် ထမင်းချက်ရန်လည်းမဖြစ်၍အာဟာရပြတ်ကာအငတ်ဘေး ဆိုက်ကြကုန်၏။ ဤသို့အငတ်ငတ် အပြတ်ပြတ်နှင့် လာခဲ့ကြရာ တနေ့မသာအခါနေဝင်သည့်ပိုင်အောင် ခရီးပြင်းနှင်ခဲ့၍နေဝင် သည်နှင့်တပြိုင်နက် လှည်းတို့ကိုချွတ်ကာ လှည်းဝိုင်းကြီး ပြုလုပ် ပြီး၊ နွားများကိုလှည်းဘီးတွင်ချည်နှောင်လျက် လူတို့သည် အင် အားမရှိ ချိနဲ့စွာဖြင့် လှည်းဝိုင်းအတွင်း ထိုထိုအရပ်၌ ထိုးအိပ် ကြလေကုန်၏။ထိုညတွင် ဘီလူးတို့သည် ဘီလူးမြို့မှ ထွက်ခွါလာ ကာ အင်အားချိနဲ့သဖြင့် တစုံတရာ ပြန်လှန်ခုခံရန် မစွမ်းနိုင် သော ဗာလနှင့်တကွ လှည်းပေါင်းငါးရာတွင်ပါသည့် လူအား လုံးနှင့် နွားအားလုံးကို အသက်ကုန်ခြင်းသို့ ရောက်စေလျက် အသားတို့ကို စားမျိုကာ အရိုးတို့ကို ချန်ထားပြီး ပြန်သွားကြ ကုန်လေ၏။လှည်းပေါင်း ၅၀၀နှင့်တင်ဆောင်လာသော ပစ္စည်း ဘဏ္ဍာတို့မှာမူ ထိုနေရာ၌ပင်တည်ရှိနေကြလေကုန်၏။

(အဋ္ဌကထာဆရာ အရှင်ဗုဒ္ဓဃောသ၏ မှတ်ချက်။)

ဉာဏ်ပညာမရှိသော လှည်းကုန်သည်မှူးတဦး၏ အမြော် အမြင်မရှိမှုအမှားအမှန်ကို ဝေဘန်ခွဲခြားခြင်းမပြုနိုင်မှု၊မိုက်မဲမှု၊ ဘေးပေးမှုအတွက် လူပေါင်းများစွာ နွားများပါမကျန် ပျက်စီး ခြင်းသို့ရောက်ရ၏။

(ဘုရားအလောင်း လှည်းကုန်သည်မှူး ခရီးထွက်ခဲ့ခြင်း)

ဘုရားလောင်းလှည်းကုန်သည်မှူးလည်း ဗာလတို့ထွက်သွား ပြီး လခွဲအကြာတွင် လှည်းပေါင်း ၅၀၀ဖြင့် ထွက် လာ ခဲ့ရာ ဗာလတို့ရောက်သော ဘီလူးတို့နေထိုင်ရာ ရေမရှိသည့် နိရုဒက ကန္တာရအဝသို့ ရောက်လာခဲ့၏။ ဘုရားလောင်းသည် ကန္တာရ အဝသို့ ရောက်သည်နှင့်တပြိုင်နက် ထိုအရပ်တွင် ခေတ္တ စခန်း

ချကာ ရေအိုးကြီးပေါင်းများစွာနှင့် ရေများကို အပြည့် ယူငင် တင်ဆောင်လျက် မိမိ၏လူများကိုလည်း စည်းတော်တီး၍အမှတ် ပေးကာ ဘုရုဒေးစေပြီးနောက်။

အချင်းတို့ ယခုကစပြီး ကျွန်ုပ်ကိုမပန်ကြားဘဲရေတလက်ခုပ် ကိုမျှ အချည်းနှီး သုံးမပစ်ကြနှင့်၊ ၎င်းပြင် ကန္တာရထဲမှာ အဆိပ်ပင်တွေရှိတယ်၊ သင်တို့ယခင်ကမစားဘူးတဲ့အရွက် အပွင့် အသီးဟူသမျှ ကျွန်ုပ်ကိုမပန်ကြားဘဲ ဘာတခုမျှ မစားကြလေ နှင့်ဟု ဆုံးမစကားပြောကြားကာ သတိပေးထားလေ၏။ ဤသို့ စဉ်စဉ်စိုင်းပြင်းပြီးနောက် လှည်းပေါင်း ၅၀၀ဖြင့် ယူဇနာ ခြောက်ဆယ် အတိုင်းအရှည်ရှိသော ကန္တာရထဲသို့ဝင်လာခဲ့ရာ မကြာမီ ကန္တာရအလယ်သို့ ရောက်လာခဲ့လေ၏။ ကန္တာရ၌ ကြီးမှူးနေထိုင်သော ယခင်ဘီလူးသည် လှည်းကုန်သည်မှူးဗာလ တို့အား ပြုလုပ်ပြသသောနည်းအတိုင်း ရေအစိုစို ရွှံ့ညွန် အလိမ်းလိမ်းကပ်သောလှည်းဖြင့် ကြာဖြူ၊ ကြာနီ၊ ကြာညိုပန်း တို့ကိုပန်ဆင်ယူဆောင်ကာ အခြွေအရံ ဘီလူး ၁၂ယောက်နှင့် တကွ ဘုရားလောင်းရှိရာသို့မောင်းနှင်လာခဲ့ပြီး ဘုရားလောင်း ၏ရှေ့တူရူ၌ရပ်တန့်လျက် ဗာလတို့အား ပြောဆိုသည့် နည်း အတူ မေးမြန်းပြောဆိုလေ၏၊ ဘုရားလောင်းသည် ထိုသူ၏အရိပ် အကဲကိုမြင်ကထည်းက ရိပ်မိသိရှိခဲ့၏။

### ပညာရှိပီပီစဉ်းစားပြီ

ဤအရပ်သည် ရေမရှိသော နိရုဒကကန္တာရဖြစ်၍ ဤခရီး လမ်းတွင်ရေမရှိနိုင်။ ဤသူသည် ကြောက်ခြင်း၊ ရွံ့ခြင်းမရှိ၊ မျက်စိလည်း နီရဲနေသည်၊ လူ၏ကိုယ်မှလည်းအရိပ်မထွက်၊ ဤသူ သည် လူမဟုတ် မုချအားဖြင့် ဘီလူးဖြစ်ရမည်။ ရှေ့ကသွားတဲ့ ဗာလတို့လူစုကို ဒီနည်းအတိုင်းပြုလုပ်ပြောဆိုလို့ရေတွေအကုန်

စွန့်ပစ်စေပြီး ရေငတ်လို့ အစာပြတ်အားကုန်တဲ့အချိန် ဇီဝိန်ကိုချွေပြီး အကုန်လုံး စားမျိုပစ်လိုက် ကုန်ကြတယ်။ ဗာလတို့နည်းတူ ငါတို့ကိုလည်း စားချင်ပုံရသည်၊ ငါ၏ အမြော်အမြင်ဉာဏ်နှင့်ပြည့်စုံပုံ အကြောင်းဟုတ်သည် မဟုတ်သည်ဌ် ဝေဘန်နိုင်ပုံ ပညာရှိပုံကို သိပုံမရဘူးဟု လေးနက်စွာစဉ်းစားမိလေ၏၊ ဘုရားလောင်းသည် ထိုသို့စဉ်းစားပြီး။

ခင်များတို့ သွားမှာသာ သွားကြပါ၊ ကျုပ်တို့ ကုန်သည်ဆိုတာ နောက်ထပ်ရေကို မျက်ဝါးထင်ထင် မမြင်မတွေ့ရသာမျှ လက်ရှိရေကိုဘယ်တော့မှမစွန့်နိုင်ဘူးမှတ်ပါ။လက်ငင်းဗိဋ္ဌရေကိုတွေ့တဲ့နေရာကြတော့မှ လက်ရှိ ရေကို စွန့်ပစ်ပြီး လှည်းများကို ဝန်ပေါ့လုပ်သွားကြမှာဘဲဟု ခပ်တင်းတင်းပြောဆိုလိုက်လေ၏။ ဘီလူးလည်း နောက်ထပ်ပြောရန် ဟန့်ပုံမရသဖြင့် ဆက်လက်မပြောတော့ဘဲ ဘုရားလောင်းတို့မျက်စိတဆုံး လှည်းနှင့် သွားယောင်ဆောင်ပြီး မိမိနေရာဘီလူးမြို့သို့ပြန်သွားလေ၏။ ဘီလူးသွားပြီးနောက် ဘုရားလောင်း၏ နောက်လိုက်နောက်ပါလှည်းကုန်သည်ဖြစ်ကြသော လူပေါင်းများစွာတို့က ဘုရားလောင်းအား-

အို-အရှင်၊ယခုတင်က လူတွေက ပြောသွားတယ်မှတ်လား။ ရှေ့ကညိုမှိုင်းနေတဲ့တောအုပ်ကြီးရှိတယ်၊အဲသည်ကစပြီး တောအုပ်ကြီးတခုလုံးဟာ ရေပြင်တစပ်ထည်း ဖြစ်အောင် အမြဲတမ်းမိုးရွာနေတယ်၊ ကြာဖြူ၊ ကြာညို၊ ကြာနီတွေသဲ သူ့ဘို့ပန်ဆင်ယှင်လာကြဘယ်။ဆံပင်စိုစို အဝတ်စိုစိုနှင့် သူ့ကိုတကိုယ်လုံးလဲစိုရွဲနေကြတယ်၊ ဒါကြောင့် ကျွန်တော်တို့ယူလာတဲ့ရေတွေစွန့်ပြီး ဝန်ပေါ့ပေါ့နှင့် သွားကြရအောင်ဟု ပြောဆိုကြလေ၏။

ထိုအခါ ဘုရားလောင်းသည် လှည်းအပေါင်းကို ခေတ္တ ရပ်နား စေကာ လူများကိုစုဝေးစေ၍-

**ငယ်သားများနှင့် အမေးအဖြေ**

အချင်းတို့။ သည်ကန္တာရခရီးထဲမှာရေအိုင်တွေ ရေကန်တွေ ရှိတယ်လို့ သင်တို့ယခင်က ကြားဘူးကြသလားဟုမေးလိုက်၏။

လူအများ။ ။မကြားဘူးကြပါ။

ဘုရားလောင်း။ ။မှန်တယ်၊ ဒါဟာ ရေမရှိတဲ့ နိရုဒက ကန္တာရခေါ်တယ်။

လူအများ။ ။နို့-ယခုတင်က လူတွေကတော့နှင့်ရွှံ့ကတော့ အုပ်ကြီးမှာ မိုးသည်းရွာနေတယ်လို့ ပြောဆို သွားကြပါကလား။

ဘုရားလောင်း။ ။မိုးသက်လေဆိုတာ အရပ်ဒေသဘယ်မျှလောက်ထိ တိုက်ခတ်သလဲ။

လူအများ။ ။တယူဇနာမျှသောအရပ်ကို တိုက်ခတ်လေ့ ရှိပါတယ်။

ဘုရားလောင်း။ ။သင်တို့အထဲက တယောက်ယောက်ရဲ့ ကိုယ်ကာယကို မိုးသက်လေတိုက်ခတ်ခံရတာ ရှိသလား။

လူအများ။ ။မရှိပါ။

ဘုရားလောင်း။ ။မိုးတိမ်ညွှန့်ဆိုတာ ဘယ်မျှ လောက်သောအရပ်ကမြင်ရသလဲ။ ဘယ်မျှ လောက်သော အရပ်တိုင်အောင် ထင်သလဲ။

လူအများ။ ။သုံးယူဇနာအရပ်က မြင်ရပါတယ်။ သုံးယူဇနာအထိ ထင်လေ့ရှိပါတယ်။

ဘုရားလောင်း။ ။သင်တို့အထဲက တစုံ တယောက်ဟာ မိုးတိမ်ညွှန့်ကိုမြင်သလား၊မိုးတိမ်ညွှန့်မြင်ရသူ သင်တို့အထဲမှာ ပါသလား။

လူအများ။ ။မရှိပါ၊ မပါပါ။

ဘုရားလောင်း။ ။လျှပ်စစ် တိမ်ပန်းဆိုတာ အရပ် ဒေသ ဘယ်မျှလောက်အထိ လက်သလဲ။

လူအများ။ ။လေးပယူဇနာ ငါးယူဇနာအရပ်အထိ လက်ပါတယ်။

ဘုရားလောင်း။ ။သင်တို့အထဲမှာ လျှပ်စစ်တိမ်ပန်း လက်ထာကိုမြင်ရသူရှိသလား၊ ပါသလား၊

လူအများ။ ။မရှိပါ၊ မပါပါ။

ဘုရားလောင်း။ ။မိုးသံ (မိုးချုန်းသံ၊ မိုးဟိန်းသံ၊ မိုးကြိုးထစ်သံ၊ မိုးကြိုးပစ်လံ စသည်ကို ဆိုလို၏။) ဆိုတာ အဘယ်မျှလောက်သောအရပ်ကကြားရသလဲ။

လူအများ ။၁ ယူဇနာ ၂ ယူဇနာအရပ်ကနေပြီး ကြားရပါတယ်။

ဘုရားလောင်း။ ။သင်တို့အထဲမှာ မိုးသံကြားရတဲ့ လူတစုံတယောက်ရှိသလား။

လူအများ။ ။မရှိပါ၊ မကြားရပါ။

## လူမဟုတ် ဘီလူး

ဘုရားလောင်း။ ။ယခုတင်က သူတွေဟာ လူမဟုတ်ဘူး။ ဘီလူးတွေ လူယောင်ဆောင်လာတာဖြစ်တယ်။ ကျွန်ုပ်တို့ကို ရေတွေကို အကုန်စွန့်ပစ်စေပြီး အစာရေစာငတ်လို့ အားနည်းအောင်လုပ်ပြီး စားပစ်ဖို့ရာလာကြတာဖြစ်မှာဘဲ။ ရှေ့က သွားတဲ့ လှည်းကုန်သည်မှူး ဗာလဟာ အမြော်အမြင် ဉာဏ်မရှိဘူး ကျွန်တော်ထင်တယ် ခုဘင်က ဘီလူးဟာ ဗာလကို သည်နည်းနှင့် ရေတွေ အကုန်စွန့်ပစ်စေပြီး အစာ ရေစာပြတ်လို့ ပင်ပန်း အားနည်းအောင်လုပ်ပြီး ဗာလတို့လူစုအားလုံးကို စားပစ်လိုက်

ပုံကိုရတယ်။ဗာလတို့လှည်းတွေဟာ ကုန်စည် ဘဏ္ဍာအပြည့်နှင့် သည်အတိုင်းရှိနေကြလိမ့်မယ်၊ ဒါတွေကို ကျွန်တော်တို့သည် ယခုနေ့တဲမြင်ကြရလိမ့်မယ်ထင်တယ်။ ဒါကြောင့် ပါလာတဲ့ ရေတွေကို တလက်ခုပ်လောက်မှ မသွန် မစွန့်ကြလေနှင့်။ ကဲ-မြန်မြန်မောင်းနှင်မှ ဖြစ်ကြတော့မည်၊ နှင်ကြပေတော့။

ဘုရားလောင်း လှည်းကုန်သည်သူသည် အထက်ပါအတိုင်း ပြောဆိုပြီး လှည်းပေါင်း (ငါးရာ)ဖြင့် အမြန်မောင်းနှင်ခဲ့လေရာ၊ ကန္တာရမှမထွက်မီ စခန်းပါခုတွင်အရှင်မရှိသောပစ္စည်းဘဏ္ဍာ အပြည့်နှင့် လှည်းပေါင်း (ငါးရာ) ကို တွေ့ရှိရ၍ အနီးအနား ပတ်ဝန်းကျင်တဝိုက်၌လည်း လူနှင့် နွားတို့၏ လက်ရိုး ခြေရိုး စသော အရိုးပြန့်တို့ ဖရို ဖရဲ ပြန့်ကျဲနေသည်ကို တွေ့ရလေ၏။ ဤအရှင်မရှိသော ပစ္စည်းဘဏ္ဍာ အပြည့်နှင့် လှည်းများမှာ အခြားမဟုတ် ဗာလတို့၏ လှည်းပေါင်း(ငါးရာ)ပင်ဖြစ်၍ ဖရို ဖရဲ ပြန့်ကျဲနေသောအရိုးတို့မှာလည်း ဗာလတို့လူစုနှင့် ဗာလတို့ နွားများ အရိုးများပင် ဖြစ်ပေသည်။ ဘုရားလောင်းသည် ထိုအရပ်၌ပင်လျှင် လှည်းများကို ချွတ်စေ၍ စခန်းချကာ လှည်းဝိုင်းကြီးဖွဲ့လျက် နေမဝင်မီ အချိန်ရှိခိုက် လူများနှင့် နွားများကို ညစာစားစေ၏။ ညစာစားပြီးနောက် လူများကို ပတ်ချာလှည့်၍ဝိုင်းဖွဲ့ကာ လူများ၏အလယ်ခေါင်၌ နွားများကို အိပ်စေ၍ ညရေးအမှောက် အစောင့်ချပြီး မိမိကိုယ်တိုင် (ဘုရားလောင်း)စစ်ဗိုလ်မှူးပြုလုပ်ကာ သန်လျက်ကိုကိုင်၍ တညလုံးမအိပ်ဘဲ နံနက်လင်းသည့်တိုင်အောင် စောင့်နေလေ၏၊ ဘီလူးများမလာကြတော့ပေ။ ဘုရားလောင်းသည် နံနက် လင်းသည်နှင့်တပြိုင်နက် အလုံးစုံသော ပြုဘွယ်ကိစ္စဟူသမျှကို ပြုလုပ်စေပြီးနောက် နွားများကိုအစာကျွေး၍ အလိုရှိရာ(ဖေါက်သည်

ရှိရာ)ဌာနသို့မောင်းနှင်ခဲ့ကြလေ၏။ ဤသို့ဖြင့် စီးပွားဥစ္စာ ဖြစ်ထွန်းစွာဖြင့် ဘေးရန်မရှိ မိမိတို့ နေရပ်ဖြစ်သော ဗာရာဏသီပြည်သို့ ပြန်လည်ရောက်ရှိခဲ့ကြလေသတည်း။

(ဥပဒေသမှတ်ချက်)။ ၊ပညာဉာဏ်အမြော်အမြင်နှင့် ပြည့်စုံ၍ အမှားအမှန်ကို ဝေဘန်ခွဲခြားနိုင်သော ဉာဏ်ပညာရှိသူတဦးကို အမှီပြုပြီး၊ လူပေါင်းများစွာ နွားတိရစ္ဆာန်များ ပါမကျန်ချမ်းသာသုခရကြ၏။)

၄။ ပူဇော်ထိုက်သူကို ပူဇော်ခြင်းဟာလဲ မင်္ဂလာတပါးဖြစ်ပါတယ်။

ပူဇော်ထိုက်သူကို ပူဇော်ရမယ်လို့ ဟောထားတဲ့အတွက် မပူဇော်ထိုက်တဲ့လူကို မပူဇော်ရဘူးလို့လဲ အဓိပ္ပါယ်ရပါတယ်။ ပူဇော်ထိုက်တဲ့လူကို ပူဇော်ရင် အကျိုးဖြစ်သလို မပူဇော်ထိုက်တဲ့ လူကို ပူဇော်ရင်အပြစ်ဖြစ်တယ်။

မြတ်စွာဘုရား လက်ထက်တော်က အဇာတသတ်မင်းသားဟာ မပူဇော်ထိုက်တဲ့ ဒေဝဒတ်ကို အပူဇော်မှားတဲ့အတွက် အခုထက်ထိ ငရဲမှာဘဲ ခံနေရပါသေးတယ်၊

၅ လျော်ကန်သင့်မြတ်တဲ့ အရပ်မှာ နေထိုင်ခြင်းဟာလဲ မင်္ဂလာတပါးဖြစ်ပါတယ်။

အဲဒီလိုဆိုရင် လျော်ကန်သင့်မြတ်တဲ့ အရပ်ဆိုတာဘယ်လို အရပ်မျိုးလဲ။

ရဟန်းသူတော် သူမြတ်တို့လဲရှိတယ်၊ ရတနာသုံးပါးကို ကြည်ညိုကြတဲ့ ဥပါသကာ ဥပါသိကာမတွေလဲရှိတယ်၊ ရဟန်းသူတော်သူမြတ်တွေကိုလဲဖူးမျှော်ခွင့်ရမယ်၊ စေတီပုထိုးတွေကိုလဲ ဖူးမျှော်ခွင့်ရမယ်။ ဒါန၊ သီလ၊ ဘာဝနာ ကုသိုလ်တွေကိုလဲ

ပြုလုပ်ပွားများခွင့်ရမယ်။ အဲဒီအရပ်ဟာလျှော်ကန်သင့်မြတ်တဲ့ အရပ်ဖြစ်တယ်။

နေရပ်ရွေးတဲ့အခါ အထူးလိုက်နာသင့်တဲ့ စံချိန်လေးတခုကို အောက်တွင်ဖေါ်ပြလိုက်ပါတယ်၊

## နေရပ်ရွေးပုံ

(က) အကြင်အရပ်မှာ နေခြင်းကြောင့် ရွှေငွေ ဘဏ္ဍာ လယ်ယာ နွားကျွဲ ပုလဲ ပတ္တမြားသော လောကီဥစ္စာရတနာ တို့နှင့် လွန်စွာပြည့်စုံ၍ ရွှေအိမ်ရွှေနန်းပေါ်၌ စံမြန်းကာနေရ၏။ ဒါနသီလစသော ကုသိုလ်တရားတို့ကိုမူကား၊ တိုးပွားခြင်းမရှိ။ ငွေတထောင်ရဘို့ရန်အတွက်ငွေတဆယ်စွန့်လွှတ်ရန်မခက်သကဲ့သို့ ဉာဏ်ဖြင့် ချိန်ဆ၍ ထိုအရပ်မှ ဖဲသွားရာ၏။

(ခ) အကြင်အရပ်ရပ်မှာနေခြင်းကြောင့် လောကီပစ္စည်း ဥစ္စာရတနာလည်း မတိုးပွား၊ ဒါနစသော ကုသိုလ်တရား လည်းမဖြစ်၊ ထိုအရပ်မှာ တနေ့တရက်မျှမနေဘဲ အမြန်စွန့်ဖဲ သွားရာ၏။

(ဂ) အကြင်အရပ်ရပ်မှာ နေခြင်းကြောင့် ဒါနစသော ကုသိုလ်တရားတို့မူကား အလွန်တိုးပွား၏။ လောကီပစ္စည်း ဥစ္စာရတနာတို့မှာမူကား တိုးပွားခြင်း ယုတ်ခြင်းမရှိ၊ ထိုအခါ ကြီးစွာသော ဆင်းရဲကို လွန်မြောက်လိုသော သူသည် အနည်း ငယ်မျှသော ဆင်းရဲကို မကြောက်ရသကဲ့သို့ ဉာဏ်ဖြင့်ချိန်ဆကာ ထိုအရပ်မှာပင် နေရာ၏။

(ဃ) အကြင်အရပ်မှာ နေခြင်းကြောင့် လောကီဥစ္စာ ရတနာတို့ကလည်း လွန်စွာတိုးပွား၏။ ဒါနစသော ကုသိုလ် တရားကလည်းလွန်စွာဖြစ်ထွန်း၏။ ထိုအရပ်မှာတသက်ပတ်လုံး နေထိုင်အပ်၏။

၇ ရှေးရှေးဘဝက ပြုခဲ့ဘူးသော ကုသိုလ်ကောင်းမှုရှိသူ ဖြစ်ခြင်းဟာလဲ မင်္ဂလာတပါးပင်ဖြစ်ပါတယ်။

၆ အကျင့်တရား မပျက်ပြားအောင် မိမိကိုယ်နှုတ်စိတ်ကို ကောင်းစွာ ထိန်းသိမ်းစောင့်ရှောက်ခြင်းဟာလဲ မင်္ဂလာတပါး ဖြစ်ပါတယ်။

ဒီမင်္ဂလာတရားဟာ တခြားမဟုတ်ပါဘူး၊

(က) မဖြစ်သေးတဲ့အကုသိုလ်တရားတွေကိုမဖြစ်ရအောင် အားထုတ်ခြင်း။

(ခ) ဖြစ်ပြီးတဲ့ အကုသိုလ်တရားတွေကို ပယ်နိုင်အောင် အားထုတ်ခြင်း။

(ဂ) မဖြစ်သေးတဲ့ ကုသိုလ်တရားတွေကိုဖြစ်အောင်အား ထုတ်ခြင်း။

(ဃ) ဖြစ်ပြီးတဲ့ ကုသိုလ်တရားတွေကို ပွားများအောင် အားထုတ်ခြင်းဆိုတဲ့ သမ္မပ္ပဓာန်တရားလေးပါးဘဲဖြစ်ပါတယ်။

ဒီမင်္ဂလာဖြစ်အောင်အားထုတ်ချင်ကြတဲ့လူတွေဟာ ဂဝေသီ ဆရာကြီးနဲ့သူ့တပည့်တွေကို နည်းယူဘို့ကောင်းတယ်၊ အဲဒါ ကြောင့် ဂဝေသီဝတ္ထုကို ထုတ်ဖော်ပြလိုပါတယ်။

## ဂဝေသီဝတ္ထု

လွန်လေပြီးသောကာလ ကဿပဘုရားရှင်လက်ထက်တော် က ဂဝေသီအမည်ရှိသော ,ပါသကာကြီးသည်ရှိ၏၊ ယိုဆရာ ကြီး၌တပည့် ၅၀၀ရှိ၏။ တရံရောအခါထိုဆရာကြီးသည်၅ပါး သီလကို ဆောက်တည်ပြီးလျှင် အသင်တပည့်တို့ ယနေ့ကစ၍ ငါ့အား ၅ ပါးသီလတည်သော ဆရာကြီးဟူ၍ မှတ်ယူကြကုန် လော့ဟုပြောကြား၏၊ ထိုအခါ၅၀၀ သော တပည့်တို့ကလည်း

၅ ပါးသီလ ဆောက်တည်ကြပြီးလျှင် အရှင်ဆရာကြီးအကျွန်ုပ်တို့ကိုလည်း ယနေ့ကစ၍ ၅ ပါးသီလတည်ကြသော သူတို့ဟူ၍ မှတ်ယူတော်မူပါလောဟု ပြောကြားကြကုန်၏။ ထိုအခါဆရာကြီးကမြဟ္မစရိယ ပဉ္စမကသီလကို ဆောက်တည်ပြီးလျှင် အသင်တပည့်တို့ ယနေ့ကစ၍ ငါ့အားမြဟ္မစရိယပဉ္စမက သီလတည်သောသူဟူ၍ မှတ်ကြကုန်လော့ဟူ၍ ပြောကြားပြန်၏။

ထိုအခါငါးရာသော တပည့်တို့ကလည်း မြဟ္မစရိယပဉ္စမက သီလကိုဆောက်တည်ပြီး အရှင်ဆရာကြီး အကျွန်ုပ်တို့ကိုလည်း ယနေ့ကစ၍ မြဟ္မစရိယ ပဉ္စမက သီလတည်သော သူတို့ဟူ၍ မှတ်ယူတော်မူပါလောဟု ပြောကြားကြကုန်၏။ ထိုအခါ ဂဝေသီဆရာကြီးက ညစာမစားဘဲ ဧကဘတ္တိကဆဋ္ဌသီလကို ဆောက်တည်ပြီးလျှင် အိုအသင်တပည့်တို့ ယနေ့ကစ၍ ငါ့အား ညစာမစားဘဲ ဧကဘတ္တိကဆဋ္ဌသီလကို ဆောက်တည်သောသူ ဟူ၍ မှတ်ယူကြကုန်လောဟု ပြောကြားပြန်၏။

ထိုအခါ ငါးရာသော တပည့်အပေါင်းတို့ကလည်း ဧကဘတ္တိကဆဋ္ဌသီလဆောက်တည်ပြီးလျှင် အရှင်ဆရာကြီး အကျွန်ုပ်တို့ကိုလည်း ဧကဘတ္တိကဆဋ္ဌသီလဆောက်တည်သော သူတို့ဟူ၍ မှတ်ယူတော်မူပါလောဟု ပြောကြားကုန်ပြန်၏။ ထိုအခါ ဂဝေသီဆရာကြီးက လူနတ်တို့၏ဆရာဖြစ်တော်မူသော ကဿပ ရှင်တော်ဘုရားထံ၌ရဟန်းအဖြစ်ကိုခံယူပြီးလျှင်ရဟန်းတရားကို မပြတ်အားထုတ်သောအခါ မကြာမြင့်မီ အာသဝေါကုန်ခန်း ရဟန္တာ အဖြစ်သို့ ရောက်လေ၏။ တပည့် ငါးရာ တို့ က လည်း ထို နည်း တူ စွာ လူနတ်တို့၏ ဆရာ ဖြစ်တော် မူသော ကဿပ ဘုရားရှင်ထံ၌ ရဟန်းအဖြစ်ကို ခံယူပြီးလျှင် ရဟန်းတရားကို

မပြတ်အားထုတ်ကြသောအခါ မကြာမြင့်မီ အာသဝေါကုန်ခန်း ရဟန္တာအဖြစ်သို့ ရောက်ကြကုန်၏။

## အကြားအမြင်များခြင်း

၇ အကြား အမြင် များသောသူ ဖြစ်ခြင်းဟာ မင်္ဂလာ တပါးဖြစ်ပါတယ်။

ဒီမင်္ဂလာတရားတော်နဲ့ ပြည့်စုံစေလိုတဲ့ လူတယောက်ဟာ အနဲဆုံး အောက်ပါအချက်တွေနဲ့ ပြည့်စုံအောင် ကြိုးစားရမယ်။

(က) စာရေးစာဖတ်တတ်ရမယ်။

(ခ) မင်္ဂလာတရားတော်၊ ရတနာသုံးပါးရဲ့ ဂုဏ်ကျေးဇူးတော်၊ ၅ပါးသီလ၊ ၈ ပါးသီလ၊ဒုစရိုက်၁၀ပါး၊ သုစရိုက် ၁၀ပါး၊ ပုညကြိယာဝတ္ထု ၁၀ပါးတို့ရဲ့ အကျိုး အပြစ်တွေကို သိရမယ်။

(ဂ) မိဘဝတ်၊ သားသမီးဝတ်၊ လင်ဝတ်၊ မယားဝတ်၊ ကျွန်ဝတ်၊ အရှင်ဝတ်၊ ဆရာဝတ်၊ တပည့်ဝတ်၊ ရဟန်းဝတ်၊ ဒါယကာဝတ်တွေကို သိရမယ်။

(ဃ) လယ်သမားဖြစ်ရင် လယ်နဲ့ဆိုင်ရာ အတတ် ပညာ တွေကို တတ်သိရမယ်။ ကုန်သည်ဖြစ်ရင် ဘာလဲ ကုန်နဲ့ ဆိုင်ရာ အတတ်ပညာတွေကို တတ်သိရမယ်။

အကျဉ်းအားဖြင့် မိမိတို့လုပ်ကိုင်တဲ့ အလုပ် အကိုင်တွေကို သေသေချာချာ နားလည်ရမယ်။

(င) အနာရောဂါအကြောင်းကိုသိရမယ်။ အနာရောဂါကို ပျောက်ကင်းနိုင်တဲ့ ဆေးကိုသိရမယ်။

(စ) လူတွေ ပျက်စီးရတဲ့ အကြောင်းတွေဟာလဲ ဘာလဲ

(ဆ) မိမိတို့ ကိုးကွယ် ဆည်းကပ်နေတဲ့ ဘာသာ တရားတော်ဟာ မြင့်မြတ်ထားဘာကြောင့်လဲဆိုတာကို သိရမယ်။

(ဇ) မိမိတို့လူမျိုးများ ကြီးပွား မြင့် မြတ် ခဲ့ ဘူးကြောင်း သာဓကများထင်ရှားစွာ ဖေါ်ပြထားတဲ့ မိမိတို့ရဲ့ သမိုင်းကို နှံ့စပ်ရမယ်။

ဂ လက်မှုပညာ အစ ရှိတဲ့ အတတ်ကို တတ်မြောက်ထာဟာလဲ မင်္ဂလာတပါးဖြစ်ပါတယ်။

## သိပ္ပမင်္ဂလာတရား

လူ့လောကမှာပမြောထားနဲ့ တိရစ္ဆာန်လောကမှာတောင် တိရစ္ဆာန်ချင်းအတူတူ သိပ္ပမင်္ဂလာနဲ့ ပြည့်စုံနေတဲ့ ပျားနဲ့ စာကလေးဟိုဟာ မိမိတို့နေတိုရာ ပျားအုံဟွေ၊ စာကလေးသိုက်တွေကို ကောင်းကောင်းမွန်မွန် လုပ်တတ်တဲ့အတွက် တခြားတိရစ္ဆာန် တွေထက် ပိုပြီး ချမ်းချမ်း သာသာ နေ ကြ ရ တယ်။ မျောက်ဆိုတဲ့အကောင်မျိုးကတော့ ဘာမှမလုပ်တတ်ဘူး။သူများလုပ်ပြီးသားကိုတောင် ဖျက်စီးပစ်တတ်တယ်။ အဲဒါကြောင့် တခြားတိရစ္ဆာန်တွေနဲ့ မတူဘူး။အနေအထိုင် အင်မတန်ဆင်းရဲရတယ်။

လောကမှာအတတ်ပညာကိုကောင်းကောင်းတတ်တဲ့ လူတွေဟာ ကိုယ့်အသက်မွေးဝမ်းကျောင်းအတွက်မပူရဘူး။ ဒီလိုမပူရမှလဲ နောင်ဘဝမလွန်အတွက် ဒါန၊သီလ၊ဘာဝနာဆိုတဲ့ ကုသိုလ်ကောင်းမှုတွေကို ကြိုးစား အားထုတ်နိုင်မယ်။ မြတ်စွာဘုရားသာသနာတော်ကြီးကို မပျက်စီးရအောင် မဆောင်ကြဉ်းတော်မူနေကြတဲ့ သံဃာတော်တွေကိုလဲ ပစ္စည်းလေးပါးနဲ့ ထောက်ပံ့နိုင်ပါတယ်။

၉ ကောင်းစွာသင်ကြားပြီး ကျင့်သုံးတဲ့ ကိုယ်ကျင့်ဝိနည်း တရားတော်ရှိခြင်းဟာလဲ မင်္ဂလာတပါး ဖြစ်ပါတယ်။

လူ တွေ ဟာ ရ ဟန်း တွေ ရဲ့ ဝိနည်း ကို သာ သင်ကြား တတ်မြောက်ရုံသာမကဘဲ မိမိရဲ့ကိုယ်ရိုးသက်ဆိုင်နေတဲ့ လူ့ ဝိနည်းကိုလဲ အထူးသင်ကြားတတ်မြောက်ထားဘို့ လိုပါတယ်။ သင်ကြားတတ်မြောက်ထားတဲ့အတိုင်းလဲ ကောင်းကောင်း ကျင့်ဘို့ လိုပါတယ်။

## လူ့ဝိနည်းအကျဉ်းချုပ်

ကျွေးမွေးမပျက်၊ ဆောင်ရွက်စီမံ၊ မွေ့ခံထိုက်စေ၊ လှူမျှဝေ၍၊ စောင့်လေမျိုးနွယ်၊ ဝတ်ငါးသွယ်၊ ကျင့်ဘွယ်သားတို့တာ။

မကောင်းမြစ်တား၊ ကောင်းရာညွှန်လတ်၊ အတတ်သင်စေ၊ ပေးဝေနှီးရင်း၊ ထိမ်းမြားမြင်းလျှင်၊ ဝတ်ငါးအင်၊ ဘခင်မယ်တို့ တာ။

ညီညာထကြို၊ ဆုံးမနာယူ လာမူကြိုဆီး၊ ထံနီးလုပ်ကျွေး၊ သင်ဘွေးအံ့ရွတ်၊ တပည့်ဝတ်၊ မချွတ်ငါးခုသာ။

အတတ်လည်းသင်၊ ဝဲ့ပြင်ဆုံးမ၊ သိပ္ပမချန်၊ ဘေးရန်ဆီးကာ၊ သင့်ရာအပ်ပို့၊ ဆရာတို့၊ မချို့ဝတ်ငါးဖြာ။

မထိမွဲကင်း၊ အပ်နှင်းဥစ္စာ၊ မိစ္ဆာမမှား၊ ဝတ်စားဆင်ယင်၊ မြတ်နိုးကြင်၊ ငါးအင်လင်ကျင့်ရာ။

အိမ်တွင်းမှုလုပ်၊ သိမ်းထုပ်သေချာ၊ မိစ္ဆာကြဉ်ရှောင်၊ လျှော်အောင်ဖြန့်ချီ၊ ပျင်းရိမ်မှု၊ ဝတ်ငါးဆူ၊ အိမ်သူကျင့်အပ်စွာ။

ပေးကမ်းချီးမြှင့်၊ ကိုယ်နှင့်ယှဉ်ထား၊ စီးပွားဆောင်ရွက်၊ နှုတ်မြွက်ချိုသာ၊ သစ္စာမှန်စေ၊ ဝတ်ငါးထွေ၊ ကျင့်လေမိတ်သဟာ။

မေ့လျော့စောင့်လာ၊ ဥစ္စာစောင့်ရှောက်၊ လန့်ကြောက်မှီရာ၊ ဘေးလာမပစ်၊ သားမြစ်ဆက်စေ၊ ဝတ်ငါးထွေ၊ မိတ်ဆွေ ပြန်ကျင့်ရာ။

ဝစ္စာကျွေးမွေး၊ ပြုရေးစီရင်၊ နာလျှင်ကုစေ၊ ငွေဝေရသာ၊ အခါကိုလွှတ်၊ အရှင့်ဝတ်၊ မချွတ်ငါးခုသာ။

အိပ်သော်နောက်ကျ၊ ထသော်ကားရှေး၊ ပေး မှ ယူ အပ်၊ စေ့စပ်ဆောင်ရွက်၊ ကျေးဇူးမြွက်၊ ငါးချက်ကျွန်ကျင့်ရာ။

မေတ္တာစိတ်သက်၊ ဆောင်ရွက်ချစ်ခင်၊ ခင်မင်နှုတ်ချို၊ လိုလျှင်ဖိတ်ထား၊ တတ်အားလှူစေ၊ ဝတ်ငါးထွေ၊ ကျင့်လေ ဒါယကာ။

၁၀ ကောင်းစွာပြောအိုအပ်သော စကား ရှိခြင်း ဟာ လဲ မင်္ဂလာတပါး ဖြစ်ပါတယ်။

အခုဒီတော့ ကောင်းစွာပြောဆိုတဲ့ စကားဆိုတာ ရှင်းပြဘို့လိုပါလိမ့်မယ်။

စကားခြောက်ခွန်း လူ့ဌတွန်းတယ် လေးခွန်းကိုပယ်ပြီးလျှင် နှစ်ခွန်းကိုသာပြုရမယ်ဆိုတာကို ကြားဘူးကြပါလိမ့်မယ်။ အဲဒီတော့ ရှေးဦးစွာ ဒီစကားခြောက်ခွန်းကို ဖေါ်ပြလိုပါတယ်။

## စကား ခြောက်မျိုး

၁ မဟုတ်မမှန် ဖေါက်ပြန်ချွတ်ယွင်းသဖြင့် အကျိုး စီးပွား ပျက်၍ မနှစ် သက် မ နာ လို အပ် သော (မခိုး မဝှက်သောသူကို ခိုးသည် ဝှက်သည်စသည်ဖြင့် ပြောဆိုအပ်သော)စကားမျိုး။

၂ ဟုတ်မှန်ပင် ဟုတ်မှန်ငြားသော်လည်း အကျိုးစီးပွားနှင့်လည်း မစပ် သူတပါးလည်း မနှစ်လိုအပ်သော (ခိုးမှုဟုတ်သောသူကို ခိုးသည် ဝှက်သည် စသည်ဖြင့် ပြောဆို အပ်သော) စကားမျိုး။

၃ ဟုတ်လည်းဟုတ်မှန်၍ နှစ်တန်သော အကျိုး စီးပွားနှင့် စပ်သော်လည်း သူတပါးမနှစ်လိုအပ်သော (မလိမ္မာသော တပည့်သားမြေးတို့ကို ဟုတ်တိုင်းမှန်စွာ မြည်တွန် တောက်တီး၍ ပြောဆိုအပ်သော) စကားမျိုး။

၄ မဟုတ်မမှန်ဖေါက်ပြန်ချွတ်ယွင်းသဖြင့် အကျိုး စီးပွား ယွင်းကွက်သော်လည်း သူတပါးနှစ်သက်အပ်သော (သီတာကို ရာမအောင်ယူ၍သွားသည်စသော) စကားမျိုး။

၅ ဟုတ်မှန်ပင် ဟုန်မှန်ငြားသော်လည်း အကျိုး စီးပွား နှင့်မစပ် သူတပါးနှစ်လိုခြင်းကိုသာ ဖြစ်စေတတ်သော (ယမင်း စကား ဟင်းအကားစသော တိရစ္ဆာနကထာ မဂ်ဖိုလ်မှ ဖီလာ ဖြစ်သော) စကားမျိုး။

၆ ဟုတ်လည်း ဟုတ်မှန်၍ နှစ်တန်သော အကျိုးနှင့်လည်း စပ် သူတပါးလည်း နှစ်လိုအပ်သော (သတိပဋ္ဌာန် စသော) တရားစကားမျိုး။

ဤစကား ၆ မျိုးကိုအမှတ်ရလွယ်အောင် ထပ်ပြီး ရှင်းပြပါဦး မယ်။

(က) မမှန်အကျိုးမရှိ။ တဘက်သားမလိုလား။
(ခ) မှန်။ အကျိုးမရှိ။ မလိုလား။
(ဂ) မှန်။ အကျိုးရှိ။ မလိုလား။
(ဃ) မမှန်။ အကျိုးမရှိ။ လိုလားသည်။
(င) မှန်။ အကျိုးမရှိ။ လိုလားသည်။
(စ) မှန်။ အကျိုးရှိ။ လိုလားသည်။

ဒီလိုစကားခြောက်မျိုးရှိတဲ့အနက်၊ အမှတ်(ဂ)ဖြစ်တဲ့မှန်၏၊ အကျိုးရှိ၏။ တဘက်သားမလိုလားဆိုတဲ့စကားနဲ့ အမှတ်(စ)

ဖြစ်တဲ့ မှန်၏။အကျိုးရှိ၏။တဘက်သားလိုလား၏ဆိုတဲ့ စကား နှစ်ခွန်းကိုသာပြောရမယ်။ ကျန်တဲ့ စကားလေးခွန်းကို ပယ်ရမယ်။အဲဒီအတိုင်းပြောနိုင်ရင် ကောင်းစွာပြောဆိုအပ်တဲ့ စကားရှိခြင်းဆိုတဲ့ မင်္ဂလာနဲ့ ပြည့်စုံရမယ်။

ကောင်းတဲ့စကားဆို ဘယ်လိုစကားမျိုးလဲဆိုတာကို နောက်တနည်းနဲ့ ရှင်းပြထားတာလဲ ရှိပါသေးတယ်။ အဲဒီနောက်တနည်းကိုလဲ ကျွန်တော်ဖေါ်ပြချင်ပါသေးတယ်။

သုဘာသိတာဝါစာဆိုသည်ကား ၁ မုသာဝါဒ(မဟုတ်မမှန်သောစကား)မှ ရှောင်ကြဉ်၍ ဟုတ်မှန်သောစကားကို ပြောဆိုခြင်း။ ၂၊ ပိသုဏာဝါစာ(ချောပစ်ကုံးတိုက်သောစကား)မှရှောင်ကြဉ်၍ ချောပစ်ကုံးတိုက်ခြင်းမဟုတ်သောစကားကိုပြောဆိုခြင်း။ ၃၊ ဖရုသဝါစာ (ရှန်းရင်းကြမ်းတမ်းသော စကား)မှ ရှောင်ကြဉ်၍ သိမ်မွေ့ နူးညံ့သော စကား ကို ပြော ဆို ခြင်း။ ၄၊ သမ္ဖပ္ပလာပ(ဘာရတညီနောင်စစ်ထိုးခြင်းစသော အကျိုးမရှိသည့် လုပ်ဇာတ်ဒဏ္ဍာရီစကားမျိုးကိုပြောဆိုခြင်းမှရှောင်ကြဉ်၍ အကျိုးရှိသောစကားမျိုးကိုပြောဆိုခြင်း။ဤအင်္ဂါလေးပါးနှင့်ပြည့်စုံသောစကားမျိုးကို သုဘာသိတာဝါစာခေါ်ပေ၏။

ဒီစကားလေးမျိုးထဲက မဟုတ်မမှန်တဲ့ စကားကို ပြောတာဟာ ဘယ်လောက်အပြစ်ကြီးတယ်ဆိုတာကို လူသိများနေတဲ့ အတွက် ဒီစကားကိုအကျယ်မချဲ့လိုတော့ပါဘူး။

## မြတ်စွာဘုရားလက်ထက်က

မြတ်စွာဘုရား လက်ထက်တော်တုန်းက တနေ့သောအခါမှာ ရှင်မဟာမောဂ္ဂလာန် ကိုယ်တော်ကြီးဟာ ရှင်လက္ခဏနဲ့ အတူ ရာဇဂြိုဟ်ပြည်အနီး ဂိဇ္ဈကုဋ်တောင်ကို ရောက်သွားကြ

ပါတယ်။ အဲဒီမှာ အင်မတန်ကြီးတဲ့ ဝက်ပြိတ္တာကြီး တကောင်ကိုရှင်မဟာမောဂ္ဂလာန်ရဲ့ အဘိညာဏ်တန်ခိုးနဲ့ မြင်ရပါတယ်။ ဒီဝက်ပြိတ္တာကြီးဟာ အင်မတန်ကြီးပါတယ်။ ကိုယ်ကတော့ လူကိုယ်ဖြစ်ပြီး ခေါင်းက ဝက်ခေါင်းဖြစ်ပါတယ်။ အဲဒီပြိတ္တာကြီးရဲ့ ပစပ်ထဲက အမြီးပေါက်နေပါတယ်။ အဲဒီပစပ်ထဲကပိုးရွလို အကောင်တွေဟာ ယိုစီးကျနေပါတယ်။

အဲဒီဝက်ပြိတ္တာကြီးကို ရှင်မဟာမောဂ္ဂလာန် မြင်တော်မူတဲ့အခါ ပြုံးတော်မူလိုက်ပါတယ်။ အဲဒီအခါ အတူပါလာတဲ့ ရှင်လက္ခဏက ဘာ့ကြောင့် ပြုံးပါသလဲလို့ မေးပါတယ်။ ရှင်မဟာမောဂ္ဂလာန် ကိုယ်တော်ကြီးကလဲ ဒီမေးခွန်းကိုမြတ်စွာဘုရားသခင် ရှေ့တော်ကို ရောက်မှမေးပါလို့ ပြန်ဖြေတယ်၊ မြတ်စွာဘုရားသခင်ရဲ့ရှေ့တော်ကိုရောက်လို့ ရှင်လက္ခဏ ထပ်ပြီးမေးတဲ့အခါ အဲဒီဝက်ပြိတ္တာကြီးကို မြင်ခဲ့ရတဲ့အကြောင်း ရှင်မဟာမောဂ္ဂလာန် ကိုယ်တော်ကြီး က မြတ်စွာဘုရား ကို လျှောက်ထားပါတယ်။ အဲဒီအခါ မြတ်စွာဘုရားကိုယ်တော်တိုင်လဲ ဒီဝက်ပြိတ္တာကြီးကို မြင်တော်မူခဲ့ဘူးကြောင်း။ သို့သော်လည်း မြင်သူအဖော်မရှိသေးတဲ့ ဒီစကားကို မိန့်ကြားရင် ကြားရသူပုထုဇဉ်တွေမှာ သံသယ ဖြစ်စရာ အကြောင်း ရှိတဲ့အတွက် ဆိတ်ဆိတ်နေခဲ့ကြောင်းတို့ကို အမိန့်တော်ရှိပြီးမှ ဒီဝက်ပြိတ္တာရဲ့ ရှေ့ဖြစ်ဟောင်းကို မြတ်စွာဘုရားသခင်က ပြန်ပြီးဟောတော်မူပါတယ်။

## သျှကရပေတဝတ္ထု ဝက်ပြိတ္တာဝတ္ထု

(ခုဒ္ဒကနိကာယ၊ ဓမ္မပဒအဋ္ဌကထာမှ တိုက်ရိုက် ဘာသာပြန်ဆိုချက်)

ကဿပမြတ်စွာဘုရားလက်ထက်တခုသော ရွာကျောင်းတွင် မထေရ် ၂ပါးတို့သည် အလွန်ချစ်ကြည်သင့်တင့်စွာနေထိုင်ကြ၏။ မထေရ်တပါးမှာ ဝါတော် ၆၀ရ၍ မထေရ်တပါးမှာ ၅၉ဝါ ရပြီဖြစ်၏။ ၅၉ဝါ ရသောမထေရ်ငယ်က မိမိထက် တဝါသာ ကြီးသောဝါတော် ၆၀ ရ မထေရ်၏ သပိတ်သက်န်းကို ကိုင်ယူ၍ ကိုရင်သာမဏေငယ်ကလေးပမာ အမြဲတမ်း ရိုသေစွာ လိုက်ပါ ခစားနေထိုင်ခဲ့၏။ ထိုမထေရ် ၂ပါးသည် တမိဝမ်းတွင်း အတူ အောင်းသည့် ညီရင်းအကိုပမာ အလွန်တရာချစ်ခင်ကြ၏။ တနေ့သ၌ ထိုကျောင်းသို့ ဓမ္မကထိက ရဟန်းတော်တပါး ရောက်လာ၏။ (ထိုနေ့သည် တရားနာယူရန် သတ်မှတ်ထားသော နေ့ဖြစ်ပေ၏) ရွာကျောင်းနေ မထေရ် ၂ပါးတို့သည် ဓမ္မကထိက ကိုယ်တော်အား တရားဟောရန် တောင်းပန်ကြ၍ ဓမ္မကထိက ကိုယ်တော်က တရားဟောပြရလေ၏။ မထေရ် ၂ပါးသည် ငါတို့တွင် တရားဟောရန် ဓမ္မကထိက ရပေပြီဟု နှစ်သက်ဝမ်းသာစွာ နက်ဖြန်နံနက်တွင် ဓမ္မကထိက ကိုယ်တော်ကို ဆွမ်းခံရွာသို့ ပင့်ဆောင်သွားကြပြီးလျှင် ရွာထည်း၌ ဆွမ်းများ ဘုဉ်းပေးကြပြီးနောက် ဓမ္မကထိက ကိုယ်တော်အား-

ငါ့ရှင်- ယမန်နေ့က ငါတို့အား ဟောကြားထားတဲ့ တရားအဆက်ကနေပြီး ဒါယကာ ဒါယိကာမများအား အနည်းငယ် ဟောပြပေးပါဦးဟု တောင်းပန်ကြလေ၏။ တောင်းပန်သည့်အတိုင်း ဓမ္မကထိက ကိုယ်တော်က ဟောပြလိုက်ရာ ဒါယကာ

ဒါယိကာမများက နှုတ်ဖြန့်ထပ်မံ၍ ပင့်ဘိတ် လိုက်ကြလေ၏၊ ဤသို့သောနည်းဖြင့် မထေရ် ၂ပါးသည် ဓမ္မကထိကကိုယ်တော်အား မိမိတို့၏ဆွမ်းခံရွာများသို့ နှစ်ရက်ပတ်လုံး ပင့်ဆောင်ခေါ်ယူသွားကြကုန်၏၊

ဓမ္မကထိကသည် ဤသို့အကြံဖြစ်၏။ ဤမထေရ် ၂ပါးလုံးတို့သည် အလွန်နူးညံ့သိမ်မွေ့ကြ၏။ ငါသည် ဤမထေရ် ၂ပါးလုံးကို ဤကျောင်းမှပြေးအောင်ပြုလုပ်ပြီး သည်ကျောင်းမှာငါနေရအောင်ပြုလုပ်မှတော်မည်ဟု ကြံစည်လေ၏။ ထိုသို့ကြံစည်ပြီးလျှင် ညချမ်းအခါ မထေရ်ကြီးထံသွားရောက်ခစားစဉ် အခြားသူများထသွား၍ မိမိနှင့်မထေရ်ကြီး ၂ပါးထည်း ကျန်ရှိသောအခါ။

အရှင်ဘုရား အနည်းငယ်လျှောက်ရန်ရှိပါတယ်ဟု လျှောက်လေ၏။

(မထေရ်ကြီး) လျှောက်ပါ ငါ့ရှင်။

(ဓမ္မကထိက) (အနည်းငယ် တွေနေပြီးမှ) အရှင်ဘုရား လျှောက်ရန်စကားမည်သည်မှာ များသောအပြစ်ရှိနေပါတယ်။ ဓမ္မကထိကကိုယ်တော်သည် အထက်ပါအတိုင်းလျှောက်ထားပြီး နောက်ထပ် တစုံတရာ ဘာမျှမလျှောက်ဘဲ မထေရ်ကြီးအပါးမှ ထပြန်လာခဲ့လေ၏။ ဓမ္မကထိကသည် မထေရ်ငယ်ထံသို့လည်း ဤနည်းပင်သွားပြီး ဤနည်းပင်လျှောက်ကာထပြန်လာခဲ့၏။ နှစ်ရက်မြောက် ဖြစ်သော နောက် တ နေ့ ၌ လည်း ဓမ္မ က ထိ က သည် ထိုနည်းပင် မထေရ် ၂ပါးလုံးထံ ချဉ်းကပ်ပြီး ပြုမူလျှောက်ထားခဲ့၏။ သုံးရက်မြောက်သောနေ့၌လည်း ဤနည်းပင်ပြုမူ၍ ထိုအခါနောက် မထေရ် ၂ပါးလုံး စိတ်နှလုံးစနောင့်စနင်းဖြစ်နေကြလေ

## မထေရ်ကြီးသို့လျှောက်ထားပုံ

အရှင်ဘုရား။ တစုံတရာ လျှောက်ဘွယ်တော့ ရှိပါတယ်။ သို့ပေမဲ့ အရှင်ဘုရားဆီမှာ လျှောက်ဘို့ ကြောက်ရွံ့ပြီး မဝံ့အောင်ဖြစ်နေပါတယ်ဘုရား။

(မထေရ်ကြီး) ဘာဘဲဖြစ်ဖြစ် လျှောက်သာ လျှောက်ပါ၊ ကြောက်စရာမရှိပါဘူး။

(ဓမ္မကထိက) မထေရ်ငယ်ဟာ အရှင်ဘုရားနှင့် အတူတကွ ပေါင်းဖေါ်ခြင်း သုံးဆောင်ခြင်းပြုပါသလားဘုရား။

(မထေရ်ကြီး) ငါ့ရှင် ဘယ်လိုပြောသလဲ၊ ငါတို့ ၂ဦးဟာ တမိဝမ်းတွင်း အတူဆင်းလာ့ ညီရင်းအကိုလို ခင်မင်နေတာဘဲ။ တဦးရတဲ့ပစ္စည်းဟာ နှစ်ဦးလုံးအတွက်ရတာဘဲ ဤမျှလောက်ကြာအောင်နေလာတာ။ မထေရ်ငယ်ရဲ့အပြစ်ဆိုလို့ ဘာမှ မတွေ့ခဲ့ဘူး၊

(ဓမ္မကထိက) သည်အတိုင်း အမှန်ဘဲလားဘုရား။

(မထေရ်ကြီး) မှန်တယ်ငါ့ရှင်။

(ဓမ္မကထိက) တပည့်တော်တော့ မထေရ်ငယ်က သည်လို ပြောပါသလားဘုရား၊ ငါ့ရှင် အာဂန္တုကဘိက္ခုတော်ကောင်း သင်သည်အမျိုးကောင်းသားဖြစ်တယ်၊ မထေရ်ကြီးဟာ လဇ္ဇီပေသလဆိုပြီး မထေရ်ကြီးနှင့် အတူတကွ ပေါင်းဖေါ် သုံးဆောင်လျှင် စုံစမ်းဆင်ခြင်ပြီးမှ ပေါင်းဖေါ်ခြင်း သုံးဆောင်ခြင်းအမှုကို ပြုလေလို့ တပည့်တော်ကို သည်ကျောင်း ရောက်သည့်နေ့ကစပြီး ပြောထားပါတယ်ဘုရား။

မထေရ်ကြီးသည် အထက်ပါစကားကို ကြားလျှင် အမျက်ထွက်၍ အိုးခွက်ကို လှံတံဖြင့်ရိုက်ခတ်လိုက်ဘိသကဲ့သို့စိတ်နှလုံး

ကွဲအက်သွားလေ၏။ ဓမ္မကထိကသည် ထပြန်လာခဲ့ပြီး လျှင် မထေရ်ငယ်ထံသို့ချဉ်းကပ်၍ထိုနည်းငှင်းလျှောက်ပြန်ရာ မထေရ်ငယ်သည်း မထေရ်ကြီးနည်းတူ ဖြစ်သွားလေ၏၊ နက်ဖြန်နံနက်ဆွမ်းခံထွက်ကြသောအခါ၊ မထေရ်ကြီးနှင့် မထေရ်ငယ်သည် တပါးစီ တခြားစီထွက်ကြလေ၏။

(မှတ်ချက်။ "မထေရ် ၂ ပါးတို့သည်ယခင်က ဆွမ်းခံထွက်ရာ၌ယခုကဲ့သို့ တပါး စီတခြားစီ တခါမျှမထွက်ခဲ့ဘူးပေ၊နှစ်ပါးအတူတကွသာ ထွက်ခဲ့ကြ၏။)

ထိုသို့ထူးခြားစွာ တပါးစီ ဆွမ်းခံ ထွက်သွားကြရာ မထေရ်ငယ်က အလျှင်ပြန်ရောက်၍ ဆွမ်းစားဇရပ်၌ ရပ်နေ၏။ မထေရ်ကြီးလည်း ဆွမ်းစားဇရပ်သို့ မကြာမီပင် ရောက်လာလေ၏။ ထိုအခါ မထေရ်ငယ်က-

ငါသည်၊ သူ၏(မထေရ်ကြီး၏) သပိတ်သက်န်းကို လှမ်းယူထိုက်သေးသလား၊ မယူထိုက်ဘူးလားဟု တွေးတော၍ ပထမတွင်မယူရန် ကြံစည်ပြီးမှ ဘာဘဲဖြစ်ဖြစ်လေ၊ငါပြုနေကျ ဝတ်ကတော့ ဖျက်လို့မတော်သေးပါဘူး။ ယူဦးမှဘဲဟု ကြံဆခြင်ကာ မိမိစိတ်ကို ဖိနှိပ်ပြီးမထေရ်ကြီးထံ ချဉ်းကပ်လျက်-

သပိတ်သက်န်းကို ပေးတော်မူပါဘုရားဟု လျှောက်ထားလေရာ မထေရ်ကြီးက-

ပြစ်မှားတတ်သော ရဟန်း၊ သွားလေ၊ သင်သည်ငါ၏ သပိတ်သက်န်းကို ယူခြင်းငှါ မလျှောက်ပတ်တော့ချေ ဟု မာန်မဲ၍လက်ဖျစ်တီးလိုက်လေ၏။ထိုအခါမထေရ်ငယ်ကလည်း

ကောင်းပါပြီ အရှင်ဘုရား။ တပည့်တော်လဲအရှင်ဘုရားရဲ့ သပိတ် သက်န်းကို မယူဘို့ ကြံစည်ထားတာပါဘဲဟု ပြန်၍

(မထေရ်ကြီး) ငါ့ရှင် သင်ဘယ်လို အောက်မေ့လို့လဲ၊ ငါ့မှာ သည်ကျောင်းကို ကပ်ငြိတဲ့စိတ်ရှိတယ်ထင်နေသလား။

(မထေရ်ငယ်) အရှင်ဘုရားကကော ဘယ်လို အောက်မေ့နေပါသလဲ။ တပည့်တော်မှာ သည်ကျောင်းကို ကပ်ငြိတဲ့စိတ်ရှိတယ်ထင်လို့လား။ မထေရ်ကြီးသည် အထက်ပါအတိုင်း ပြောဆိုပြီး သည်ကျောင်းဟာ သင့်ကျောင်းဘဲ၊ ငါမနေတော့ဘူးဟုဆိုကာ သပိတ်သက်န်းကို ယူငင်ပြီးကျောင်းထဲမှ ထွက်ကြွသွားလေ၏။ မထေရ်ငယ်လည်း လိုအတူ သပိတ်သက်န်းကိုယူပြီး ကျောင်းမှထွက်သွားလေ၏။ မထေရ် ၂ပါးတို့သည် ကျောင်းမှထွက်သွားကြရာအတူတူမသွားဘဲတပါးကအနောက်ဘက်တံခါးမှထွက်၍ တပါးက အရှေ့ဘက်တံခါးမှထွက်လေ၏၊ ဓမ္မကထိကလည်း မထေရ် ၂ပါးဖြစ်ပုံမြင်၍-

အရှင်ဘုရားတို့ ဤလိုပြုမူတော် မမူကြပါနှင့်ဘုရားဟု ပြောဆိုလျှောက်ထားကာ ပြန်ပြီးနေထိုင်ရန် လျှောက်ထားသော်လည်း ငါ့ရှင်သင်နေရစ် ငါတို့သွားမည်ဟု ပြောဆိုထွက်သွားကြလေ၏။

ဓမ္မကထိကသည် နောက်တနေ့ဆွမ်းခံရွာသို့ ဝင်သောအခါ ဒါယကာ ဒါယိကာမများက မထေရ်၂ပါးဘယ်မှာလဲဘုရားဟု မေးကြရာသင်တို့မထေရ် ၂ပါးအကြောင်းမမေးကြနှင့် ယမန်နေ့ကရန်ဖြစ်ပြီး ၂-ပါးလုံးထွက်သွားကြတယ်။ငါလိုက်ပြီးတောင်းပန်တာတောင် မရဘူးဟု ပြောလိုက်လေ၏။

ထိုအခါ ပညာအဆင်အခြင်မရှိသူတို့က ဆိတ်ဆိတ်နေ၍ ပညာအဆင်အခြင်ရှိသူတို့က မထေရ်နှစ်ပါးဟာ ဘယ်တော့မှ ချွတ်ချော်တာမတွေ့ခဲ့ဘူးဘူး၊သည်ဘေးဟာ ဓမ္မကထိကကိုအမှီပြုပြီး ဖြစ်ထာနေမှာဘဲဟု စိတ်နှလုံးမသာမယာ ဖြစ်ကြကုန်၏။

မထေရ် ၂ပါးသည် ထွက်သွားကတည်းက စိတ်နှလုံး ချမ်းသာရာမရခဲ့ပေ၊ မထေရ်ကြီး၏စိတ်တွင် မထေရ်ငယ်၏ပြုမူပုံဟာ အလွန်ဝန်လေးတာဘဲမသင့်လျော်ဘူးခဏကလေးတွေ့မြင်ရတဲ့ ဓမ္မကထိက အာဂန္တုကိုမထေရ်ကြီးနှင့်အတူသုံးဆောင်ပေါင်းသင်းခြင်းမပြုအိုရာ ပြောတယ်ဟု အောက်မေ့ခဲ့လေ၏။ မထေရ်ငယ်၏ စိတ်၌လည်း ဤနည်းပင်အောက်မေ့ခဲ့လေ၏။ မထေရ် ၂ပါးလုံးမှာ ကျောင်းမှ ထွက်လာကြကတည်းက စိတ်မချမ်းမသာမှုအတွက်ပိဋကတ်တော်သရဇ္ဈာယ်ခြင်း ကမ္မဋ္ဌာန်းကိုနှလုံးသွင်းခြင်းမပြုနိုင်ခဲ့ကြပေ။ ထိုမထေရ် ၂ပါးတို့သည် ကျောင်းမှ ထွက်လာ၍ အနှစ်တရာ လွန်မြောက်ကြသောအခါ အနောက်ဘက်မျက်နှာရှိတခုသော ကျောင်း၌ ၂ပါးအတူဆုံမိကြလေ၏။

(မှတ်ချက် ကဿပဘုရားမြတ်စွာလက်ထက်ဖြစ်သော ထိုအချိန်သည်ကား သက်တမ်း ၂၀၀၀၀ တန်း ဖြစ်လေ၏။)

ဆုံမိကြပုံကား မထေရ်ကြီးက ထိုကျောင်းသို့ အလျှင်ဝင်၍ ညောင်စောင်း၌ လည်းလျောင်းနေစဉ် မထေရ်ငယ်ဝင်လာ၍ ဆုံမိကြခြင်းဖြစ်၏။ မထေရ်ကြီးသည် မထေရ်ငယ်ကိုမြင်လျှင် မြင်ခြင်းမှတ်မိသိရှိကာမျက်ရည်မဆည်နိုင်အောင်ဖြစ်၍မျက်ရည်တို့ဖြင့် ပြည့်နေသောမျက်စိဖြင့် ကြည့်နေမိလေ၏။ မထေရ်ငယ်လည်း ထိုနည်းတူစွာ မျက်ရည်မဆည်နိုင်အောင်ဖြစ်နေလေ၏။ မထေရ်ငယ်သည် မထေရ်ကြီးအား-

ခေါ်ငင်နှုတ်ဆက်ရမည်လော။နှုတ်မဆက်ဘဲနေရမည်လောဟု တွေးဆနေပြီးမှ နှုတ်ဆက်ခေါ်ငင်တော့မည်ဟု ပိုင်းဖြတ်ကာ မထေရ်ကြီးထံ ချည်းကပ်ဝတ်ချပြီး-

အရှင်ဘုရား၊ ဤမျှလောက်သော ကာလပတ်လုံးတပည့်

လည်နေထိုင်လာခဲ့တယ်၊ တပည့်တော်အပေါ်မှာ ကာယဒွါရ စသည်တို့၌ တစုံတရာ မလျောက်ပတ်ထာ မသင့်လျော်တာများ မြင်တွေ့ခဲ့ဘူးပါသလား ဘုရားဟုလျှောက်ကြားလေ၏။

(မထေရ်ကြီး) တခါမှ မမြင်ခဲ့ဘူးဘူး ငါ့ရှင်။

(မထေရ်ငယ်) သို့-သည်လို ဖြစ်လျက်သားနှင့် ဓမ္မကထိက ကို ဘာကြောင့် မထေရ်ငယ်နှင့်အတူ သုံးဆောင် ပေါင်းဖော်ခြင်းမပြုနှင့်ဟု ပြောရပါသလဲဘုရား။

(မထေရ်ကြီး)ငါသည်လိုမပြောရပါဘူးလား ငါ့ရှင်။ ငါ့ရှင် ကသာ ငါ့ကိုသည်လိုပြောဆိုတယ်ဆို မဟုတ်လား။

(မထေရ်ငယ်) တပည့်တော်ကလဲ သည်လို မပြောရပါဘူး ဘုရား။

ထိုခဏ၌ မထေရ် ၂ ပါးသည် ဓမ္မ က ထိ က သည် ငါတို့ ကို ဂုဏ်းဖျော ရန်တိုက်(ဂုဏ်းတိုက်)၍ ခွဲခြင်းဖြစ်လိမ့်မည်ဟု သဘော ပေါက်လာကြကာ အချင်းချင်း တ ဦး ၏ အ ဖြစ် ကို တ ဦး အား ပြောကြားကာ ကျေနပ်ပြီး အညီအညွတ် ဖြစ် သွား ကြ လေ ၏။ နှစ်ပေါင်းတရာပတ်လုံး စိတ်ချမ်းသာ မှုမရခဲ့သော မထေရ် ၂ ပါး သည် တခဏအတွင်း အမြန်မှန်ရကာ စိတ်ချမ်းသာ သွားကြပြီး နောက်-

ထဲလာ သည်ကျောင်းပြန် သွားပြီး ဓမ္မကထိကကိုနှင်ထုတ်ကြ ရ အောင် ဆို ကာ ထိုမှ လ ကျောင်း သို့ ပြန် လာ ခဲ့ ကြ လေ ၏။ ဓမ္မကထိကလည်း မထေရ် ၂ ပါးကို မြင်လျှင် မြင်ချင်း သပိတ် သင်္ကန်းကိုလှမ်းယူရန် ချဉ်းကပ်လေရာ မထေရ် ၂ ပါးက-

သင်သည် ဤကျောင်း၌နေခြင်းငှါ မသင့်လျော်တော့ချေဟု ပြောဆို၍ လက်ဖျစ် တီးလိုက်ကြလေ၏။ ဓမ္မ က ထိ က လည်း နောက်ထပ်မလျှောက်ဝံ့တော့ဘဲ ထိုကျောင်းမှ ထွက်ပြေးခဲ့ရလေ

၏။ မဃ္ဃကထိကလည်း ထိုအတွက်နှစ်ပေါင်းနှစ်သောင်းအားထုတ်ခဲ့သော ရဟန်းတရားသည် သူ့အားဆောက်တည်ရာမရတော့ဘဲ သေသောအခါ အဝီစိငရဲကြီး၌ ဖြစ်လေ၏။

## ကုံး(ဂုံး)ချောရန်တိုက်သော မဃ္ဃကထိက အဝီစိငရဲကြီး ခံရပုံ

မဃ္ဃကထိကသည် အဝီစိငရဲကြီး၌ ကဿပဘုရားနှင့် ဂေါတမဘုရား၏ကြား ကာလတခုလုံး (ဘုရားနှစ်ဆူ အကြား) ကာလပတ်လုံး ငရဲခံရပြီး နောက် ဂေါတမမြတ်စွာဘုရား ပွင့်တော်မူသောအခါ ရာဇဂြိုဟ်ပြည်အနီး ဂိဇ္ဈကုဋ်တောင်၌ အထက်ဖော်ပြပါ ပြိတ္တာကြီးလာ၍ ဖြစ်ရလေ၏။

ဂုံးတိုက်ပေးတဲ့အပြစ်ကို ဖော်ပြပြီးတဲ့နောက် ကြမ်းကြမ်းတမ်းတမ်းပြောတာရဲ့အပြစ်နဲ့ ချိုချိုသာသာပြောတာရဲ့အကျိုးတွေကိုထင်ရှားစေဖို့တဲ့အတွက် နိပါတ်တော်ထဲက နန္ဒိဝိသာလနွားမင်းဝတ္ထုကို ကျွန်တော်ဖော်ပြလိုပါတယ်။

## နန္ဒိဝိသာလနွားမင်းဝတ္ထု

(ဇာတက အဋ္ဌကထာမှ တိုက်ရိုက်ဘာသာပြန်ဆိုချက်)

လွန်လေပြီးသောအခါ ဂန္ဓာရတိုင်း တက္ကသိုလ်ပြည်၌ ဂန္ဓာရမင်း အုပ်စိုးစဉ် ဘုရားလောင်းသည် နွားမျိုး၌ဖြစ်၍ ပုဏ္ဏားတယောက်၏သားသမီးသဘွယ်ပြုစုကျွေးမွေးခြင်းကို ခံယူကာ ကြီးပြင်းခဲ့လေ၏။ အမည် နန္ဒိဝိသာလဟုခေါ်၏။ ပုဏ္ဏားသည် ဘုရားလောင်း နန္ဒိဝိသာလနွားအား သားရင်းသဘွယ် ခင်တွယ်၍ ယာဂုထမင်းစသည်တို့ကို အစာပြု၍ ကျွေးမွေးခဲ့၏။ နန္ဒိဝိသာလသည် ဤသို့အကြီးဖြစ်၏။

ဤပုဏ္ဏားသည် ငါ့ကို ခဲယဉ်းပြီး ပြင်စွာနှင့် အမျိုးမျိုး

ကျွေးမွေး စောင့်ရှောင့်ပြုစုခဲ့ပေ၏။ ဇမ္ဗူဒီပါတကျွန်းလုံးတွင် ငါနှင့်တူစွာဝန်ကိုဆောင်နိုင်သော နွားမည်သည်မရှိ။ ငါ၏ ခွန်အားဗလကိုပြသပြီး ပုဏ္ဏားကို မွေးကျေးဇူးဆပ်ရလျှင် ကောင်းလေစွဟု အကြံဖြစ်လေ၏။ ထိုသို့အကြံဖြစ်ပြီးနောက် တနေ့သ၌ ပုဏ္ဏားအား-

ပုဏ္ဏား၊ နွားသူဌေးတယောက်သိသွားပြီး ငါ့နွားဟာတစပ်တည်း ဖွဲ့စည်းချည်နှောင်ထားတဲ့ လှည်းပေါင်း၁၀၀ကိုလိမ့်သွားအောင် ဆောင်နိုင်တယ်လို့ ပြောပြီး ငွေတထောင်ကြေး လောင်းဟန် [illegible] နွားသူ[illegible]ရဟု ပြောလိုက်လေ၏။ ပုဏ္ဏားလည်း နှ[illegible] ဂေါဝိန္ဒကခေါ် နွားသူဌေး တဦးထံ သွားပြီး နွားအကြောင်းစကားစပ်၍-

ဒီမြို့တော်ပေါ်မှာ ဘယ်သူ့နွားက ခွန်အားဗလ အကောင်းဆုံးလဲဟု မေးလိုက်ရာ နွားသူဌေးက မည်သူ့နွား မည်သူ၏ နွားများသည် ခွန်အားဗလကောင်းကြောင်းနှင့် ပြောဆိုပြီး တမြို့လုံးတွင် မိမိ၏နွားများလောက်ခွန်အားဗလကောင်းသော နွားများ မရှိကြောင်း ကြွားဝါ၍ပြောဆိုလိုက်လေ၏။

(ပုဏ္ဏား) ကျွန်တော့်မှာနွားတကောင်ရှိတယ်၊တစပ်တည်း ဖွဲ့စည်းချည်နှောင်ထားတဲ့ လှည်းအစီးပေါင်း၁၀၀ (တရာ)ကို လိမ့်သွားအောင် ဆွဲဆောင်နိုင်တယ်။

(နွားသူဌေး) သည်လိုနွားမျိုးဘယ်မှာရှိသလဲ၊

(ပုဏ္ဏား) ကျွန်တော့အိမ်မှာရှိတယ်၊

(နွားသူဌေး) သည်လိုဆိုရင် လောင်းမလား၊

(ပုဏ္ဏား) လောင်းပါ့မယ်သူဌေးမင်း၊

ထိုနောက် ၂ဦးသဘောတူငွေတထောင်ကြေး လောင်းတမ်းပြုကြလေ၏။

## နွားပွဲ

နွားပွဲကျင်းပသောနေ့သည် ဆိုက်ရောက်လာခဲ့လေ၏။ လှည်းအစီးပေါင်း ၁၀၀(တရာ)တွင် သဲကျောက်စရစ်များ အပြည့်တင်၍ တစပ်ထည်းဖွဲ့စည်းချည်နှောင်ကာ ရှေ့ဆုံးက လှည်းတွင် နန္ဒိဝိသာလကောင်ထည်းရန်းရန် စီမံထားလေ၏။ ပုဏ္ဏားသည် နန္ဒိဝိသာလကိုရေချိုး၍ နံ့သာလက်ငါးချောင်းရာကိုပေးလျက် လည်ပင်း၌ပန်းကုံးစွပ်ပြီး၊ မိမိကိုယ်တိုင်လှည်းဦးမှထိုင်၍ နှင်တံကိုမြှောက်ကာ ကောက်ကျစ်စဉ်းလဲသောနွား သွားလော့။ ကောက်ကျစ်စဉ်းလဲသောနွားရုန်းလော့ဟု ပြောဆို မောင်းနှင်လေ၏။နန္ဒိဝိသာလသည် ထိုစကားကို ကြားသည်နှင့်တပြိုင်နက် ငါဟာကောက်ကျစ်စဉ်းလဲခြင်းမရှိတဲ့နှင့် သည်ပုဏ္ဏားဟာ ငါ့ကို ကောက်ကျစ်စဉ်းလဲသောနွားဆိုပြီး မဟုတ်မမှန် ပြောဆိုတယ်ဟု စဉ်းစားကာ ခြေထောက်လေးဘက်ကို တောင့်ထားပြီး မရုန်းမသွားတော့ဘဲ ရပ်နေလိုက်လေ၏။

ပုဏ္ဏားရှုံး၍ နွားသူဌေးနိုင်ခဲ့ရာ ပုဏ္ဏား၏ ငွေ၁၀၀၀ဝိကို နွားသူဌေးကယူလိုက်လေ၏။ ပုဏ္ဏား သည် နွား ကို ချွတ် ကာ အိမ်ပြန်လာခဲ့ပြီး ရှုံးခြင်းကြီးရှုံးသည့်အတွက်စိတ်သောက ကြီးစွာနှင့် (အိမ်ရှေ့တွင်)လဲလျောင်းနေလေ၏။ နန္ဒိဝိသာလသည် ပုဏ္ဏားရှိရာလာခဲ့ပြီး ပုဏ္ဏားအိပ်နေသလားဟု မေးလိုက်လေ၏။

(ပုဏ္ဏား) ဘယ်ကအိပ်ရမှာလဲကွ။ငွေတထောင်ရှုံးနေတာ။

(နန္ဒိဝိသာလ)၊ ပုဏ္ဏား သင့်အိမ်မှာ တသက်လုံး နေလာခဲ့တာ ဖိုးခွက်တခုကို ခွဲခဲ့ဘူးသလား။ တစုံတရာ ပစ္စည်း ဥစ္စာကို နင်းခဲ့ဘူးတာရှိသလား။မဟုတ်တဲ့နေရာ ကျင်ကြီး ကျင်ငယ် စွန့်ခဲ့ဘူးသလား။

(ပုဏ္ဏား) ငါ့သားဒီလိုလုပ်ထာမရှိခဲ့ဘူးပါဘူး။

(နန္ဒဝိသာလ) ဒီလိုမရှိခဲ့ဘူးဘဲနဲ့ ဘာဖြစ်လို့ ကျွန်တော့ ကိုကောက်ကျစ်စဉ်းလဲတဲ့နွားလို့ ဆိုရသလဲ၊ ဒါဟာသင့်အပြစ်ဘဲ ကျွန်တော့် အပြစ်မဟုတ်ဘူး။ နောက်ထပ်သွားပြီး နှစ်ထောင် ကြေးလောင်းဘမ်းလုပ်ချေ မကောက်ကျစ်ရဘဲနှင့် ကောက်ကျစ် စဉ်းလဲသောနွားလို့ တော့မဆိုနှင့်။

ပုဏ္ဏားသည် နန္ဒဝိသာလ စကားအတိုင်း နွားသူဌေးထံ သွား၍ နောက်ယပ် နှစ်ထောင်ကြေးလောင်းတမ်း ပြုလုပ်ရန် ပြောဆိုရာ နွားသူဌေးက သဘောတူ၍ နှစ်ထောင်ကြေးလောင်း တမ်းပြုလုပ်ကြပြန်လေသ၏။

## ဒုတိယ နွားပွဲ

ဒုတိယ အကြိမ် မြောက် နွားပွဲ ကျင်းပသော နေ့သည် ဆိုက်ရောက်လာခဲ့လေ၏။ ထိုပွဲတွင် ယခင်နည်းအတိုင်းပင် လှည်း အစီးပေါင်း ၁၀၀ ကိုတစပ်တည်းဖွဲ့စည်းချည်နှောင်ကာ ရှေ့ဆုံး က လှည်းတွင် နန္ဒဝိသာလတကောင်ထည်း ရုန်းရန် စီမံ၍ လှည်းများပေါ်၌လည်း သဲနှင့်ကျောက်စရစ်များ အပြည့် တင် ထားလေ၏၊ ဤအကြိမ်၌ကား ပုဏ္ဏားသည် လှည်းဦးတွင် ထိုင် ကာ နန္ဒဝိသာလ၏ကျောကုန်းကိုလက်ဖြင့်ပွတ်သပ်၍ ကောင်း သောနွား သွားပါလော့ ကောင်းသောနွားရုန်းပါလော့ဟုဆို၍ မောင်းနှင်လေ၏။ နန္ဒဝိသာလသည် လှည်းအစီးပေါင်း ၁၀၀ ကို တဟုန်ထည်းဖြင့်ဆွဲငင်၍ ရုန်းသွားလိုက်ရာ နောက်ဆုံး၌ ထားသော လှည်းသည် ရှေ့ဆုံး၌ထားသော လှည်းနေရာသို့ ရောက်ခဲ့လေ၏။ နွားသူဌေးရှုံး၍ ပုဏ္ဏားနိုင်လေရာ နွားသူဌေး သည် ပုဏ္ဏားအား ငွေ ၂၀၀၀ ပေးလိုက်ရလေ၏။

နွားပွဲကြည့်နေသူလူအပေါင်းတို့လည်း တအံ့ တဩဖြစ်ကာ နန္ဒဝိသာလအား များစွာသော ငွေအသပြာတို့ဖြင့် ပေးကမ်းဆုချကြလေကုန်၏။ ဆုရသမျှငွေအားလုံးကို ပုဏ္ဏားက ယူငင်၍ ပုဏ္ဏားမှာငွေအသပြာဥစ္စာများစွာရသွားလေ၏။

မြတ်စွာဘုရား၏အမိန့်တော်မှတ်ချက်။ရဟန်းတို့ သူတပါးနှင့် စကားပြောလျှင် နှစ်သက်ဘွယ်သော စကားကိုသာလျှင် ပြောဆိုရာ၏။မနှစ်သက်ဘွယ်သောစကားကို တရံတဆစ်မျှ မပြောဆိုရာ။ နှစ်သက်ဘွယ်သောစကားကို ပြောဆိုရခြင်းကြောင့် နန္ဒဝိသာလသည် လေးသောဝန်ရှိသော လှည်းအစီးပေါင်း တရာကို ရုန်းဆောင်ဆွဲငင်၍ ပုဏ္ဏားအားဥစ္စာများစွာရစေပြီး ပုဏ္ဏားလည်း ထိုအတွက် နှစ်သက်ဝမ်းမြောက်သွားရပြီ။

မဖေါက်မပြန် ဟုတ်မှန်တဲ့ ဂုဏ်အင်္ဂါနဲ့ ပြည့်စုံတဲ့ နေရာမှာ ဝိဓူရအမတ်ကြီးတို့ သုတသောမမင်းကြီးတို့လို ပြည့်စုံနိုင်အောင် ကြိုးစားရမယ်။ အလောင်းတော်ဟာ ဝိဓူရအမတ် ဖြစ်စဉ်က ကောရဗျမင်းနဲ့ ပုဏ္ဏကဘီလူးတို့ ကြွေအံကစားကြတယ်။ မင်းကြီးရှုံးတဲ့အတွက် ဝိဓူရအမတ်ကိုပေးရမယ်လို့ ပုဏ္ဏကက တောင်းတယ်၊မင်းကြီးကလဲမပေးချင်တာနဲ့ ဝိဓူရကို သူမပိုင်ဘူးလို့ ငြင်းလိုက်တယ်။အဲဒီအခါ ဝိဓူရကို မင်းကြီးပိုင် မပိုင် ဝိဓူရကို အဆုံးဖြတ် အပေးခိုင်းတယ်။ ဝိဓူရကို မင်းကြီးပိုင်တယ်လို့ အဆုံးအဖြတ်ပေးရင် သူဟာ ပုဏ္ဏကဘီလူးစာ ဖြစ်ရတော့မယ် ဆိုတာကို သိရက်သားနဲ့ ဝိဓူရအမတ်ကြီးဟာ အမှန်တရေးကို လက်ကိုင်ထားပြီး သူ့ကိုမင်းကြီးပိုင်တယ်လို့ ဆုံးဖြတ်ပေးလိုက်တယ်။

အမှန်တရားကိုလက်ကိုင်ထားတဲ့ နေရာမှာလဲ သုတသောမ မင်းကြီးဟာအင်မတန်ချီးကျူးစရာကောင်းပါတယ်။ လူသားစား ပေါရိသာဒဟာ တနေ့ကျတော့ သုတသောမမင်းကြီးကို ယဇ် ပူဇော်ဘို့ ဖမ်းသွားပါတယ်။ အဲဒီအချိန်မှာသုတသောမမင်းကြီး ဟာလဲ ကဿပမြတ်စွာဘုရားလက်ထက်တော်က ဆင်းသက်လာ တဲ့ သတာရဟ ဂါထာတွေကို နားထောင်ပါ့မယ်လို့ ပုဏ္ဏား တယောက်ကိုကတိပေးထားတယ်။ ဒီတော့အဲဒီကတိကိုမဖျက်ချင် ဘူး။ ဒီဂါထာတွေကိုနာဘို့အတွက် သူ့ကိုခဏလွှတ်ပါ။

ဂါထာတွေကြားနာပြီးရင် ပြီး ချင်း ပြန် လာ ခဲ့ပါ့မယ်လို့ သုတသောမမင်းကြီးက ပေါရိသာဒဆီမှာ ခွင့် တောင်း တယ်။ သုတသောမမင်းကြီးဟာ ပေါရိသာဒရဲ့ ဆ ရာ ဖြစ် ခဲ့ ဘူး တဲ့ အတွက် ပြန်မလာချင်လဲ နေပေစေတော့ဆိုတဲ့ စိတ် ထား နဲ့ ပေါရိသာဒက သုတသောမမင်းကြီးကိုလွှတ်လိုက်တယ်။ သုတ သောမမင်းကြီးအတွက်ကတော့ ကတိဆိုတာကတိဘဲ။ အဲဒါ ကြောင့် ပေးပြီးတဲ့ကတိကိုတည်ရမယ်ဆိုပြီး ဘယ်သူမှ တားလို့ မရဘဲ ဂါထာများကို ကြားနာပြီးတာနဲ့တပြိုင်နက် သူ့ကတိ အတိုင်း ပေါရိသာဒဆီကိုပြန်သွားတယ်။

အမှန်တရားဆိုတဲ့နေရာမှာ တခုရှင်းဘို့လိုလိမ့်မယ်။ အမှန်တ ရားဆိုတာ ကောင်းတဲ့ဟာတွေကိုသာမှန်မှန် ပြောဘို့ မဟုတ်ဘူး။ မကောင်းတာတွေရှိနေရင်လဲ အဲဒီရှိတာတွေကို ဖုံးဖိမထား ဘဲ ထုတ်ဖော် ဝန်ခံတာဟာအမှန်တရားဖြစ်တယ်။ မဏ္ဍဗျ သူတို့ သားကို မြွေကိုက်ပြီးအဆိပ်တက်နေတဲ့အခါ ဆရာရသေ့ကစပြီး ငါဟာ ရသေ့လုပ်တဲ့နေ့ကစပြီး ၇ရက်သာ ရသေ့ တရားမှာ ပျော်မွေ့တယ်။ လူထွက်ရင်ကဲ့ရဲ့မှာစိုးတဲ့အတွက် အောင့်ပြီးနေ

နဲ့ရတယ်၊ဒီအတိုင်းမှန်ရင် မြွေဆိပ်လျော့ပါစေသားလို့ သစ္စာဆိုတယ်၊မြွေဆိပ်ဟာပခုံးအထိ လျော့ကျသွားတယ်။ အဲဒီအခါ သတို့သားအဖေကျောင်းတကာက ငါဟာဒါရသော့ကို မကြည်ညိုပါ။မလှူဒါန်းရင်လူတွေကဲ့ရဲ့မှာစိုးတဲ့အတွက် လှူဒါန်းနေရပါတယ်လို့ သစ္စာဆိုပြန်တဲ့အခါ မြွေဆိပ်ဟာ ခါးအထိလျော့ကျသွားတယ်။ အဲဒီလိုသစ္စာရဲ့တန်ခိုးကိုမြင်တော့ သတို့သား မိခင်ကလဲ ငါဟာဒီယောကျ်ားကိုမိဘတွေပေးစားလို့ သာပေါင်းနေရတယ်။ တခါမှမချစ်ဘူးဘူးလို့ သစ္စာဆိုပြန်တယ်၊ အဲဒီအခါ မြွေဆိပ် အားလုံးလျော့ကျပြီး သားကလေး အသက် ချမ်းသာသွားတယ်၊အဲဒီအချိန်ကစပြီး ရသေ့ရော ကျောင်းတကာရော ကျောင်းအမရောမကောင်းတဲ့အပြစ်တွေကို ရေစုန်မျှောလိုက်ပြီး အသက်ထက်ဆုံး သူတော်ကောင်းတွေဖြစ်သွားကြပါတယ်၊

## ကောင်းသော စကားပြောခြင်း။

ကိုယ်ရေးကိုယ်တာနဲ့ ပတ်သက်ပြီး မှန်တဲ့စကားတွေပြောတာ အပြင်၊ ရတနာသုံးပါးနဲ့စပ်လျဉ်းပြီး မှန်တဲ့ စကားတွေကို ပြောရင်လဲ သုဘာသိတာဆိုတဲ့ ကောင်းသော စကားကို ပြောဆိုခြင်းမင်္ဂလာနဲ့ ပြည့်စုံတယ်၊

မြတ်စွာဘုရား လက်ထက်တော်တုန်းက၊ဝေသာလီပြည်မှာ ရောဂါကပ်ဘေးကြီးဆိုက်တယ်။ အဲဒီအခါမှာ အရှင်အာနန္ဒာ ခေါင်းဆောင်တဲ့ သံဃာတော်တွေ၊ ရတနာသုံးပါးရဲ့ ဂုဏ်ကျေးဇူးတော်တွေကို ချီးကျူးထားတဲ့ ရတနသုတ်ကို ရွတ်ကြတာဘဲ။ ဒီဂုဏ်ကျေးဇူးတော်တွေဟာလဲ မမှန်တဲ့ဂုဏ်ကျေးဇူးတွေမဟုတ်ဘဲ၊ မှန်တဲ့ဂုဏ်ကျေးဇူးတော်တွေ ဖြစ်နေတဲ့

အတွက် ဝေသာလီပြည်ဟာ ရောဂါကပ်ဘေးကြီးက လွတ်မြောက်ခဲ့ရဘူးပါတယ်။

## မိဘလုပ်ကျွေးခြင်း

၁၁ အမိအဘတို့ကို လုပ်ကျွေးမွေးမြူခြင်းဟာလဲ မင်္ဂလာတပါး ဖြစ်ပါတယ်။

အမိအဘတွေရဲ့ ကျေးဇူးတွေဟာ သားသမီးတွေအပေါ်မှာ ဘယ်လောက်ကြီးမားတယ်ဆိုတာ လူကြီးမင်းများ ကိုယ်တိုင် သိပြီးဖြစ်နေတဲ့အတွက် အကျယ်ချဲ့ပြီး ပြောစရာ မလိုတော့ပါဘူး၊ အဲဒီလိုကျေးဇူးတော့ ကြီးမားတဲ့အတွက် မိဘနှစ်ပါးကိုမြဟ္မာကြီးတွေလို့လဲခေါ်နိုင်တယ်၊ လက်ဦးနတ်တွေလို့လဲခေါ်နိုင်တယ်၊လက်ဦးဆရာလို့လဲခေါ်နိုင်တယ်၊မြတ်တဲ့အလှူခံလို့လဲ ခေါ်နိုင်ပါတယ်၊

ဒီကျေးဇူးတွေဟာ အင်မတန်ကြီးမားတဲ့အတွက် ကမ္ဘာမြေကြီးတခုလုံးကို စိုးအုပ်မင်းလုပ်နေရန် ပေးအပ်ပေမဲ့ မိဘကျေးဇူးတွေဟာ ဆပ်လို့မကျေသေးဘူးလို့ပင်ဒုကအင်္ဂုတ္တိုရ်မှာ မြတ်စွာဘုရား ဟောကြားထားတော် မူခဲ့ပါတယ်၊

ဒီဒုကအင်္ဂုတ္တိုရ်မှာဘဲ မိဘတွေကို ကျေးဇူးဆပ်ရင် ဘယ်လို ဆပ်ရမည်ဆိုတာကို မြတ်စွာဘုရားက ဟောကြားထားပါသေးတယ်။

မိဘနှစ်ပါးရဲ့ ကျေးဇူးကိုသေသည်တိုင်အောင်ဆပ်ချင်ရင် သဒ္ဓါတရားမရှိသေးတဲ့မိဘကို သဒ္ဓါတရားရှိအောင် လုပ်ပေးရမယ်၊သဒ္ဓါတရားရှိအောင်လုပ်ပေးရမယ်ဆိုတာကတခြား မဟုတ်ပါဘူး။ဘုရား၊တရား၊သံဃာ၊ ရတနာမြတ်သုံးပါးကို ယုံကြည်လာအောင် လုပ်ပေးရမယ်လို့ဆိုလိုပါတယ်။ကိုယ်ကျင့် သီလ

မရှိသေးတဲ့ မိဘကို ကိုယ်ကျင့် သီလရှိအောင် လုပ်ပေး ရမယ်၊ အလှူဒါနမပြုသေးတဲ့မိဘကို အလှူဒါနပြုအောင် လုပ်ပေးရမယ်၊ ပညာဗဟုသုတမရှိသေးတဲ့ မိဘကို ပညာဗဟုသုတ ရှိအောင်လုပ်ပေးရမယ်။ အဲဒီလိုတရားတော်နဲ့ ကျေးဇူးဆပ်တာဟာမြတ်တဲ့ကျေးဇူးဆပ်ခြင်းလို့ ခေါ်ပါတယ်

## ဖါးဖိုနှင့်တူတဲ့ သားမိုက် သမီးမိုက်

မိဘကို ကျေးဇူးဆပ်ရမှန်း မသိတဲ့ သားမိုက် သမီးမိုက်တွေဟာ ဖါးဖိုနဲ့တူပါတယ်။ ဖါးဖိုရဲ့ နှုတ်သီးတံက လေထွက်နေပေမဲ့ ဖါးဖိုဟာ အသက်မရှိသလိုဘဲ မိဘကျေးဇူးကန်းတဲ့ သားမိုက်သမီးမိုက်တွေလဲ နှာခေါင်းက ထွက်သက်ဝင်သက်ရှိပေမဲ့ အသက်မရှိတဲ့လူသေလို ဖြစ်နေတယ်၊ ဒီလိုလူစားမျိုးကို ပရာဘဝသုတ်မှာနှစ်ဖြာအကျိုးမတိုးမပွား၊ ပျက်ပြားအောင်ပြုတတ်သောသူ ဟူ၍၎င်း၊ ဝသလသုတ်မှာလူယုတ်ဟူ၍၎င်း၊ မြတ်စွာဘုရားဟောကြားထားခဲ့ပါတယ်။

မိဘများကို ကျေးဇူး ဆပ်ရင် တရားနဲ့ ကျေးဇူး ဆပ်ရမယ်ဆိုတာကို ပြောခဲ့ပြီးပါပြီ၊ မိဘတွေကို သားသမီး တွေက ဘယ်လို လုပ်ကျွေး မွေးမြူရမယ် ဆိုတာကိုလဲ အခုလို အခွင့်ကောင်းရတုန်းပြောပြချင်ပါတယ်။

၁ ညအိပ်ရာဝင်တဲ့အခါ ခရီးဝေး သွားတဲ့အခါ ခရီးဝေးက ပြန်လာတဲ့အခါ ရှိခိုးဝတ်ချရမယ်။

၂ အခါခပ်သိမ်း ပူဇော်မြတ်နိုးအလေးပြုရမယ်။

၃ မိဘတွေကြိုက်နှစ်သက်တဲ့ •ထမင်းအဖျော်အဝတ်၊အရုံ အိပ်ရာနေရာ တို့ကို ပေးရမယ်။

၄ ခြေဆုပ်လက်နယ်ပြုရမယ်။

သားသမီးတွေက အဲဒီဝတ်တွေအတိုင်း ဆောင် ရွက်ပေးနေရင်မိဘတွေဟာ တပြုံးပြုံးနဲ့ စိတ်ကြည်လင် ချမ်းသာနေတာဘဲ၊အဲဒီလိုမိဘတွေစိတ်ကြည်လင်ချမ်းသာရသမျှ သားသမီးတွေမှာဘုန်းကြက်သရေတိုးတက်ရမယ်လိုအင်ဆန္ဒပြည့်ဝရမယ်။

မိဘဟွေအသက်ရှိတုန်း ဒီလိုလုပ်ကျွေးပြုရပြီး မိဘတွေကွယ်လွန်တဲ့အခါ မိမိကောင်းမှု ကုသိုလ်ပြုတိုင်း မိဘတွေကိုအမျှအတမ်းဝေရမယ်။

၁၂ သားမယားတွေကို ချီးမြှောက်ထောက်ပံ့ခြင်းဟာလဲ မင်္ဂလာတပါးဖြစ်ပါတယ်။

လူ့ဝိနည်းတွေကို ပြောခဲ့တုန်းက အမိအဘတွေ အနေနဲ့ သားသမီးတွေအပေါ်မှာ ပြုလုပ်အပ်တဲ့ ဝတ္တရားတွေကို ဖေါ်ပြခဲ့ပြီးပါပြီ ဒီဝတ္တရားတွေကို ဒီနေရာမှာ ပြန်ပြီး ပြောပါရစေ။

**မိဘဝတ္တရား**

၁ မကောင်းမြစ်တား။ ။လောကီနဲ့ လောကုတ္တရာ၊ ပစ္စုပ္ပန်နဲ့ သံသရာ၊အနုဘဝနဲ့ နောင်ဘဝတွေအတွက် အကျိုးပျက်စေမဲ့ အလုပ်၊အပြော၊ အကြံအစည်တွေကို မလုပ်အောင် မပြောအောင်၊ မကြံစည်အောင် မိဘတွေက သားသမီးတွေကို ဆုံးမရမယ်၊တားမြစ်ရမယ်။

၂ ကောင်းရာညွှန်လတ်။ ။လောကီနဲ့ လောကုတ္တရာ ပစ္စုပ္ပန်နဲ့ သံသရာ၊အနုဘဝနဲ့ နောင်ဘဝတွေအတွက် အကျိုးဖြစ်စေမဲ့ အလုပ်၊အပြော၊အကြံအစည်တွေကို လုပ်အောင်၊ ပြောအောင်၊ ကြံစည်အောင် မိဘတွေက သားသမီးတွေကို၊ ဆုံးမရမယ်၊ ညွှန်ကြားရမယ်။

၃ အတတ်သင်စေ။ ။အချိန်အရွယ်ရှိတုန်းမှာမိမိတို့ သားသမီးတွေ တတ်သင့် တတ်ထိုက်တဲ့ အတတ်ပညာတွေကို တတ်

ကျွမ်းအောင်ဆရာကောင်း သမားကောင်းတွေ ဆီမှာ အပ်နှံပြီး သင်ကြားစေရမယ်။

၄ ပေးဝေခြင်း။ သားသမီးတွေအရွယ်ရောက်လာတဲ့အခါ ပစ္စည်းတတ်နိုင်တဲ့ မိဘဆိုရင်၊ ကိုယ့်ရှိတဲ့ ပစ္စည်းထဲကထိုက်တန်သလောက် သားသမီးတွေ အရင်းအနှီးလုပ်ဖို့အဟုတ် ဝေခြမ်းပေးရမယ်။

၅ ထိမ်းမြားခြင်း။ ။သီးချိန်တန်သီး၊ ပွင့်ချိန်တန်ပွင့်ဆိုတဲ့ စကားအတိုင်း သားသမီးတွေ အချိန် အရွယ် ရောက်လာလျှင် သင့်တော်တဲ့ အမျိုးကောင်းသား၊ အမျိုးကောင်း သမီးတွေနဲ့ ထိမ်းမြားပေးစားရမယ်။

ဒီဝတ္တရားငါးခုကို မိဘက သားသမီးတွေအပေါ်မှာ ပြည့်စုံအောင်လုပ်ပေးရင် မိဘတွေမှာ ဒီမင်္ဂလာနဲ့ ပြည့်စုံပြီလို့ ဆိုရမယ်။

မိဘကသားသမီးတွေကို ဘယ်လို ပြုစုစောင့်ရှောက် ရမည်ဆိုတာ ပြောပြီးလို့ လင်ယောကျ်ားက မိမိတို့ရဲ့ ခင်ပွန်းမိန်းမတွေကို ဘယ်လိုပြုစု စောင့်ရှောက် ရမယ်ဆိုတာကို ခပ်တိုတိုဆက်ပြီး ပြောပြလိုပါတယ်။

၁ မှတ်မွဲကင်း။ ။လင်ယောကျ်ားတယောက်ဟာ မိမိရဲ့ ခင်ပွန်းမကို မအော်ရဘူး။ မငေါက်ရဘူး။ မဆဲရဘူး၊ ကြမ်းကြမ်းတမ်းတမ်းမပြောရဘူး၊ မရိုက်ရဘူး၊ မချစ်ခင်မကြင်နာတဲ့ အပြောအဆိုအပြုအမူတွေမှန်သမျှ မလုပ်ရဘူး၊ အထူးရှောင်ကြဉ်ရမယ်။

ခင်ပွန်းမိန်းမက မသင့်တော်တဲ့ဟာကို ပြောမိ လုပ်မိတယ်ဆိုရင် မြုံ့ကနဲ ဒိုင်းကနဲကြမ်းမောင်း ရိုက်နှက်ခြင်း မလုပ်ဘဲ၊ သင့်တင့် လျောက်ပတ်တဲ့ အခါမျိုးမှာ အေးအေးသာသာ

တရားဓမ္မအရ ဆုံးမရမယ်။ ဒီလိုနှစ်ကြိမ် သုံးကြိမ် ဆုံးမလို့မှ မရရင်၊ သူ့ဆွေမျိုး မိဘတွေဆီကို ပြန်ပို့ရမယ်။ တရားလက်လွတ်ရိုက်နှက်ဆုံးမခြင်းမျိုးကို ရှောင်ရမယ်။

၂ အခပ်နှင့်ဥစ္စာ။ ။ငွေကို အရမ်း ကာရော ဖြုန်းတီးပစ်တတ်တဲ့မိန်းမမျိုးမဟုတ်ရင် လင်ယောကျာ်းဟာ မိမိရှာဖွေရရှိတဲ့ ပစ္စည်းဥစ္စာကို မိမိရဲ့ခင်ပွန်း မိန်းမကိုအပ်ရမယ်။

၃ မိစ္ဆာမမှား။ ။မိမိရဲ့ကာမပိုင်မိန်းမ တဦးတည်းနှင့် ရောင့်ရဲခြင်းရှိရမယ်၊ တခြားမိန်းမများနဲ့ ပျော်ပါး ခြင်း အလျှင်းမရှိရဘူး။

## ဓမ္မပါလ

ဓမ္မပါလဇာတ်ကိုကြားဘူးကြပါလိမ့်မယ်။ ဓမ္မပါလလုလင်ဟာ တက္ကသိုလ်မှာ စာသွား သင်ပါတယ်။ အဲဒီမှာ အရွယ်မရောက်သေးတဲ့လူတွေသေတာကိုမြင်တော့ အင်မတန် အံ့အားသင့်နေတယ်။ တက္ကသိုလ်ဆရာကြီးက ဓမ္မပါလလုလင်ကိုမေးတဲ့အခါသူတို့ဆီမှာ ငယ်ငယ်ရွယ်ရွယ်နဲ့သေတာမရှိဘူး လို့ ပြောတယ်၊ အဲဒီတော့ တက္ကသိုလ်ဆရာကြီးကစမ်းတဲ့အနေနဲ့ဆိတ်ရိုးတွေကို ယူပြီး ဓမ္မပါလ မိဘတွေနေတဲ့ ဆီကိုသွားပြီး ပြတယ်၊ ဓမ္မပါလ မိဘတွေဟာ အရိုးတွေကို မြင်တဲ့အခါ သူတို့သားရဲ့ အရိုးမဟုတ်လို့ မယုံကြဘူး။ သူတို့ရဲ့ သားဟာ ဘယ်နည်းနဲ့မှ မသေနိုင်သေးပါဘူးလို့ ပြောကြတယ်။ အဲဒီအခါမှ တက္ကသိုလ်ဆရာကြီးက အမှန်ကို ဖွင့်ပြောပြီး ဓမ္မပါလမိဘများနေတဲ့အရပ်မှာ ငယ်ငယ်ရွယ်ရွယ်နဲ့ မသေကြတာ ဘာကြောင့်လဲလို့ မေးမြန်းတယ်။ ဒီလိုအသက်ရှေတဲ့အကြောင်းတွေထဲမှာ မိမိကာမပိုင် မိန်းမ တဦးတည်းက လွဲပြီး တခြားမိန်းမတွေနဲ့ ဖေါက်ပြန် ပျော်ပါးခြင်းမရှိတာ ပါတယ်လို့ ပြန်ဖြေကြတယ်။

နောက်ပြီးတော့လဲ သတ္တအင်္ဂတ္တို့ရှိထဲမှာ သားမယား အိမ်မှာ ခိုင်းစေထားတဲ့ အစေခံအမှုလုပ်တွေဟာ အိမ့်ရှင်မိးတွေနဲ့ တူတဲ့အတွက် သူတို့ကို ရိုသေစွာပူဇော် ရမယ်လို့ ဆိုထားရာ မိမိကာမပိုင် တဦးတည်းနဲ့ မရောင့်ရဲနိုင်ဘဲ အခြားမိန်းမတွေနဲ့ ပျော်ပါးတဲ့လူတွေဟာ ဒီသတ္တအင်္ဂတ္တို့ရှိနဲ့ ဖဲဆန့်ကျင်ရာရောက်တယ်။

၄ ဝတ်စားဆင်ယင်။ လင်ယောကျ်ား တ ယောက် ဟာ မိမိရဲ့ခင်ပွန်းမကို ဝတ်စား ဆင်ယင် ပေးရမယ်လို့ အိုတိုင်းအရမ်းကာရော ဆင်ယင်ပေးရမယ်လို့မဆိုလို။ ကိုယ့် ပစ္စည်းအင်အားအခြေအနေ၊ကိုယ့်ဝင်ငွေ အခြေအနေကို ကြည့်ပြီး ဆင်ယင်ပေးရမယ်။ ဒီလိုမှမဟုတ်ဘဲ ကိုယ့်ပစ္စည်းအင်အားနဲ့ ကိုယ့်ဝင်ငွေ ထက်ပိုပြီး ကိုယ့်ခင်ပွန်းမိန်းမကို ဝတ်စား ဆင်ယင်မယ်ဆိုရင် ဒုက္ခရောက်တတ်တယ်။

## မယား ၇-မျိုး

အခုပြောခဲ့တာတွေက လင်ယောကျ်ားလုပ်သူက မိမိခင်ပွန်းမိန်းမကို ပူဇာဒါရသာသင်္ဂဟောဆိုတဲ့ မင်္ဂလာနဲ့အညီပြုစုရမဲ့ ဝတ္တရားတွေဖြစ်ပါတယ်။ ဒါပေမဲ့ ဒီနေရာမှာ တခုတော့သတိပေးပါရစေ၊ ယောကျ်ားလုပ်သူက ဒီလိုဝတ္တရားတွေ ကျေကျေပွန်ပွန်ဆောင်ရွက်နိုင်ရအောင် ခင်ပွန်းမတွေကလည်းအဆောင်အရွက်ခံထိုက်တဲ့ ခင်ပွန်းမတွေ ဖြစ် ဘို့ လို ပါ တယ်၊ အဲဒါကြောင့် ဘယ်လိုမယားမျိုးဟာအခုလိုအပြုစုတွေခံထိုက်တယ် ဆိုတာခွဲခြားပြီးသိရအောင်မယား ၇-မျိုးကို ဖော်ပြလိုပါတယ်။

၁။ သူသတ်နဲ့တူတဲ့မယား။ ၂။ သူခိုးနဲ့ တူတဲ့မယား။ ၃။ အရှင်နဲ့ တူတဲ့ မ ယား၊ ၄။ မိခင်နဲ့ တူတဲ့ မယား။

၅ နှမနဲ့တူတဲ့မယား။ ၆။ မိတ်ဆွေနဲ့တူတဲ့မယား။ ၇။ ကျွန်နဲ့တူတဲ့မယားရယ်လို့ မယား ၇-မျိုးရှိပါတယ်။

ဒီမယား ၇ မျိုးကို နဲနဲရှင်းပြချင်ပါသေးတယ်။ ၁ အမျက်ဒေါသ ခြောင်းခြောင်းထလျက် လင်ကိုပြစ်မှား ယောက်ျားတပါးတို့နှင့် ချစ်ခင်၊ လင်ကိုသတ်ဖြတ် ညှဉ်းဆဲခြင်း ငှာ သာ အားထုတ်သော မယားသည် သူသတ်နှင့်တူသော မယား မည် ၏။

၂ လင်ဖြစ်သောသူသည် ပင်ပန်းကြီးစွာရှာမှီး စုဆောင်း၍ ရသောဥစ္စာပစ္စည်းမှ နည်းများမဆို ခိုး လို ဝှက် လို သော မယားသည် ခိုးသူနှင့်တူသော မယားမည်၏။

၃ အလုပ်အကိုင်ကို မလုပ်လိုခြင်း။ ပျင်းရိတတ်ခြင်း။ မင်းဟွယ် ငါဟဲ့နင်စသော စကားကြမ်းကိုသာ ဆိုလျက် လင်ကိုမိမိ၏ အစေအပါးကျေးကျွန်ကဲ့သို့ နိုင်တတ်သော မယားသည် အရှင်နှင့်တူသော မယားမည်၏။

၄ မိခင်ပမာ အခါခပ်သိမ်း လင်၏ အကျိုး စီး ပွား ကိုသာ လိုလားတောင့်တလျက် လင့်အား အမြဲစောင့်ရှောက်ကာ ရှာဖွေရသော ဥစ္စာပစ္စည်းတို့ကို အချည်းနှီးမကုန်မကျစေခြင်းငှာ ကောင်းစွာ စောင့်ရှောက် တတ်သော မယားသည်မိခင်နှင့်တူသောမယားမည်၏၊

၅ အမကြီးအသွင် ခင်ပွန်း ယောက်ျား အ ပေါ် ၌ ရှက်ကြောက်ရိုသေလျက် ခင်ပွန်း၏ အလို သို့ လိုက် တတ် သော မယားသည် နှမနှင့်တူသောမယားမည်၏။

၆ ကြာမြင့်စွာ ကွေကွင်း၍ နေရသော မိတ်ဆွေတယောက် အဝေးမှ ရောက်လာသည်ကို တွေ့မြင်ရသည့် အလွန် ချစ်ခင်သော အမူအရာကို ပြ၍လျှင် အိမ်ဦးနတ်ပမာ လွန်စွာ မြတ်နိုးတတ်သော မယားသည် မိတ်ဆွေနှင့်တူသော မယားမည်၏၊

၇ မိမိ၏ ခင်ပွန်းယောကျ်ားက အမျက်ဒေါသ ပွား၍ မည်သို့ပင်အော်အင် ငေါက်ငန်းလျက် ကြမ်းတမ်း စွာ ပြော ဆို မြည်တွန်ငြားသော်လည်း အမျက်မထား စကားမလွန် သည်း ညည်းခံပြီးလျှင် လင်၏အလိုကျသာ လိုက်နာ၍ ပြုတတ်သော မယားသည် ကျွန်နှင့် တူသော မယားမည်၏။

**သေသည့်အခြားမဲ့မှာ**

ထို ၇-ပါးသော မယားတို့တွင် သူသတ်နှင့် တူသောမယား ခိုးသူနှင့်တူသောမယား၊ အရှင်နှင့်တူသောမယားတို့သည် လင် ယောကျ်ားတို့၌ ပြုအပ်သော ဝတ်ကိုချွတ်စေသော အားဖြင့် ဒုဿီလ မယားများဖြစ်ကြ၍သေသည်၏ အခြားမဲ့၌အပါယ် သို့လားကြရကုန်၏။ အမိနှင့်တူသော မယား၊ နှမနှင့် တူသော မယား၊ မိတ်ဆွေနှင့်တူသောမယား၊ ကျွန်နှင့်တူသော မယား တို့ကားလင်ယောကျ်ားတို့၌ ပြုရမည့်ဝတ်ကို မချွတ် စေ တတ် ရကား သီလရှိသောမယားတို့ဖြစ်ကြ၍ သေသည်၏ အခြားမဲ့၌ နတ်ရွာသို့ လားကြကုန်၏။ (သတ္တအင်္ဂုတ္တိုရ်)မှာဆို၏။

ဒီပုဏ္ဏဒါရဿသင်္ဂဟောဆိုတဲ့ မ င်္ဂ လာ တရား တော် နဲ့ ညီအောင် လင်ယောကျ်ားလုပ်သူကသာ လင့်ဝတ်နဲ့ ညီအောင် စောင့်ရှောက်ပြုစုရမှာ မဟုတ်ဘူး။ မယားကလဲ မယားဝတ် နဲ့ညီအောင်စောင့်ရှောက်ပြုစု ရမယ်။အဲဒီတော့မယားရဲ့ ဝတ် ငါးပါးကိုလဲ ကျွန်တော်ဖော်ပြချင်ပါတယ်။

## မယားဝတ်ငါးပါး

၁ အိမ်တွင်းမှုလုပ်။ ။ထမင်းဟင်း ချက်ပြုတ် ရမယ်။ ဖွပ် လျှော်သင့်တဲ့အဝတ်ကို ဖွပ်လျှော်ရမယ်။ချုပ်သင့်တဲ့ အဝတ်ကို ချုပ်ရမယ်။ အိမ်ထောင်ပရိဘောဂတွေကိုလဲ သပ်သပ် ရပ်ရပ်

ဖြစ်နေအောင် အိမ်နဲ့ ပတ်ဝန်းကျင်ကိုလဲ သန့်သန့် ရှင်းရှင်း ဖြစ်အောင် လုပ်နိုင်သမျှ လုပ်ကြရမယ်။

၂ သိမ်းထုပ်သေချာ။ ။မိမိရဲ့ခင်ပွန်း ယောကျ်ားမော ပန်းစွာ ရှာဖွေလို့ရအပ်တဲ့ပစ္စည်းကို မခိုးမဝှက်ရဘူး။မကုန်တန်တာ မကုန်ရအောင်သူခိုးသူ့ဝှက်တို့ မခိုးယူ နိုင်အောင် ကောင်းကောင်းသိမ်းဆည်းထားရမယ်။

၃ မိစ္ဆာကြဉ်ရှောင်။ ။မိမိခင်ပွန်းယောကျ်ားမှ တပါးတခြားယောကျ်ားများကို ကိုယ်သိ လက်ရောက် ကျူးလွန်တာ မပြောထားနှင့် စိတ်ကပင် မဖြစ်မှားမိအောင် ဆင်ခြင်ရမယ်။

၄ လျော်အောင်ဖြန့်ချိ၊ ။အခိုင်းအစေများပါ အပါအဝင် ဖြစ်တဲ့ မိမိရဲ့အိမ်သူ အိမ်သားများကို မျှမျှတတစောင့်ရှောက်ကြည့်ရှုရမယ်။ အလုပ်ပင်ပန်းသူကို ပင်ပန်းသလို ချီးမြှင့်ရမယ်။ အလုပ်ခိုသူကို ခိုသလို အရေးယူရမယ်။ နေ့ထိုင်မကောင်းတဲ့ အခါမိမိကိုယ်တိုင် စောင့်ရှောက်ပြုစုရမယ်။ ခင်ပွန်းယောကျ်ားနဲ့ မိမိတို့ရဲ့မိခင်ဘခင်၊ ဆရာသမား၊ ကိုးကွယ်တဲ့ ရဟန်းတော်များ၊ သူငယ်ချင်း မိတ်ဆွေများကို အခါ အခွင့် အားလျော်စွာ နေရာထိုင်ခင်းပေးရမယ်။ထမင်းအဖျော်စသည်တို့ကို ဝိုင်းကျွေးရမယ်၊ အဆိုက်အမျောက်ပေးကမ်းဒါန်းရမယ်။ မြတ်နိုးတကြည်ဖြူသာသနာကို စောင့်ရှောက်ဖို့ ငွေကြေးကြိုးကြို ညွှန်ပြုရမယ်။

၅ ပျင်းရိမှု၊ ။မိမိခင်ပွန်းယောကျ်ားရဲ့ အလုပ်ဟူသမျှကို တတ်နိုင် သလောက် ကူညီ လုပ် ကိုင် ပေး ရ မယ်။ လင်ယောကျ်ားက ခိုင်းစေတဲ့အခါမှာလဲ သာယာ ရွှင် လန်း ဝမ်းမြောက်ဝမ်းသာနဲ့ လုပ်ပေးရမယ်။ လင်ယောကျ်ားရဲ့နောက်မှ အိပ်ရာဝင်ပြီး လင်ယောကျ်ားရဲ့အရင်ထရမယ်။

အမိအဘတွေကလဲ သားသမီးတွေအပေါ်မှာ အခုပြောခဲ့တဲ့ အတိုင်း ကျင့်နိုင်မယ်၊ လင်တွေကရော မယားတွေကပါ အခု ပြောခဲ့တဲ့ အတိုင်းကျင့်နိုင်မယ် ဆိုရင် ဒီအမိ အဘတွေ၊ ဒီလင် ဒီမယားတွေဟာ ပုတ္တဒါရဿ သင်္ဂဟောဆိုတဲ့ မင်္ဂလာနဲ့ ပြည့်စုံကြမှာဘဲ။ ဒီမင်္ဂလာနဲ့ ပြည့်စုံတဲ့ မိသားစုတို့ဟာ စိတ္တ သုခ ကာယသုခ ဆိုတဲ့ချမ်းသာ ၂-ပါးစလုံးနဲ့လဲ ပြည့်စုံမှာဘဲ။ ကြက်သရေတွေနဲ့လဲ ပြည့်စုံမှာဘဲ။ စီးပွား လာဘ်သပ္ပကာတွေ ရာထူး ဌာနန္တရတွေလဲ တနေ့တခြား ဒီရေ အ လား လို တိုး တက်များပြားလာကြမှာဘဲ။

## မင်္ဂလာရှိတဲ့အလုပ်

၁၄ လယ်လုပ်ကုန်သွယ် ရောင်းဝယ်ခြင်းစတဲ့အနှောင့်အ ယှက်မရှိတဲ့အလုပ်ကိုလုပ်ခြင်းဟာလဲမင်္ဂလာတပါး ဖြစ်ပါတယ်။

ဒီမင်္ဂလာမှာအနှောင့်အယှက်မရှိဆိုတဲ့ စကား အထူး ဂရုပြု သင့်ပါတယ်။ အနှောင့်အယှက် မရှိဆိုတဲ့ စကား အရ အချိတ် အနှယ်မရှိ ကိုယ့်ဟာကိုယ် လွတ်လွတ်လပ်လပ်ရိုးရိုးသားသား စင်စင်ကြယ်ကြယ်လုပ်နိုင်တဲ့ အလုပ်ကို ဆိုလိုပါတယ်။

ဒီမင်္ဂလာရဲ့အဓိပ္ပါယ်ဟာ အင်မတန် ရှင်းနေတဲ့ အတွက် ဒီလောက်နဲ့ဘဲ လုံလောက်ပြီလို့ ကျွန်တော်ယုံကြည်ပါတယ်။

၁၄ ပေးကမ်းစွန့်ကြဲလှူဒါန်းခြင်းဟာလဲ မင်္ဂလာတပါးဖြစ် ပါတယ်။

ဒါနဆိုတာဟာ-

၁ မိုရာ ဆိုတဲ့ အနက်ကြောင့် ရတနာ ၇-ပါးနဲ့ ပြီးတဲ့ ခြသေ့ခံတဲ့ ပလ္လင်နဲ့ တူပါတယ်။

၂ တည်ရာဆိုတဲ့ အနက်ကြောင့် မြေကြီးနဲ့လဲတူပါတယ်။

၃ ဒုက္ခ အပေါင်းတို့က လွတ်မြောက်ရာ ဖြစ်တဲ့ အတွက် သဘော်ကြီးနဲ့လဲတူပါတယ်။

၄ နမြော တွန့်တိုခြင်းစတဲ့ အညစ်အကြေးတို့ မလိမ်းကပ်နိုင်တဲ့အနက်ကြောင့်အထပ်တရာပဒုမ္မာကြာငုံကြာဖူး ကြီးနဲ့လဲ တူပါတယ်။

၅ ကြော်ကော်ရွံ့ ထိတ်လန့်ခြင်းက ကင်းစေတတ်တဲ့ အနက်ကြောင့် သားများသေ၄နင်း ခြင်္သေ့မင်းနဲ့လဲ တူပါတယ်၊

၆ ကြီးကျယ်တဲ့ ခွန်အားကို ရစေတတ်တဲ့ အနက်ကြောင့် ဆင်ပေါက်ကြီးနဲ့လဲတူပါတယ်။

၇ ကောင်းမြတ်တဲ့ မင်္ဂလာလို့ သမုတ်အပ်တဲ့ အနက်ကြောင့် နွားလားဥသဘကြီးနဲ့လဲ တူပါတယ်။

၈ ဘေးကင်းရာကို ပို့ဆောင်နိုင်တဲ့အနက်ကြောင့် ဝလာဟက နတ်မြင်းပိုင်ကြီးနဲ့လဲ တူပါတယ်။

၉ သိကြားမင်း၊ မြဟ္မာမင်း၊ မာရ်မင်း၊ စကြဝဠာမင်း တို့ရဲ့စည်းစိမ်ကိုလဲ ပေးတတ်ပါတယ်။

၁၀ သာဝက ဗောဓိဉာဏ်ကိုရော ပစ္စေကဗောဓိဉာဏ်ကို ရော၊ သမ္မာ သမ္ဗောဓိဉာဏ်ကိုရော ပေးစွမ်းနိုင်တယ်။

အဲဒါကြောင့်မြတ်စွာ ဘုရားသခင်က-

## ဒါနလုပ်တဲ့နေရာမှာ

အို-ငါ၏ချစ်သား ရဟန်းများတို့ သတ္တဝါတို့သည် ငါ ဘုရားသိတော်မူသကဲ့သို့ ဒါန၏ အကျိုး အာနိသံသ တို့ကို ဝေဘန်၍ခွဲခြမ်း၍ သိကြပါမူကား မည်သူမျှ မလှူ ဒါန်း ဘဲ မစား သောက်ရာ။ ထိုသူတို့၏ စိတ်ကိုလည်း မပေးလိုမလှူလို ဝန်တိုခြင်း အညစ်အကြေးတို့ကဆွဲငင်၍ ရနိုင်မည်မဟုတ်ချေ၊သတ္တဝါ

တို့ စားအပ်သော ထမင်းလုပ် အနက် အကြင် နောက် ဆုံး ဖြစ်သော ထမင်းလုပ်သည်ရှိ၏။ ထိုထမင်းလုပ်တွင်ပင် ဖြစ်သော်လည်း အဘယ်မှာ မပေး မလှူဘဲ ရှိနိုင်ပါ အံ့နည်းဟူ၍ ဟောကြားထားတော် မူခဲ့ပါတယ်။ ဒါနလုပ်တဲ့ နေရာမှာ လှူဘွယ်ပစ္စည်းဟာ ပဓါနမဟုတ်ပါဘူး။

၁ မလှူခင်လှူမယ်ဆိုတဲ့ စေတနာရှိရမယ်။

၂ လှူနေတုန်း လှူရတာကို ဝမ်းမြောက် ဝမ်းသာ ဖြစ်တဲ့ စေတနာရှိရမယ်။

၃ လှူပြီးတဲ့နောက် မိမိရဲ့အလှူကို မကြာခဏ သတိရပြီး ဝမ်းမြောက်ဝမ်းသာ ဖြစ်တဲ့စေတနာရှိရမယ်။

အခုပြောပြခဲ့တဲ့ စေတနာတွေကို စေတနာသုံးတန်လို့ ခေါ်ကြပါတယ်။ ဒါနလုပ်တဲ့အခါ ဒီစေတနာ သုံးတန်ဟာ ပဓါနဖြစ်ပါတယ်။

ဒုတိယ ပဓါနကတော့ အလှူခံပုဂ္ဂိုလ်ဖြစ်ပါတယ်။ မိမိလှူရမဲ့ ပုဂ္ဂိုလ်ဟာမြတ်လေကောင်းလေပါဘဲ။ မြတ်တယ်ဆိုတာက တခြားဟာမဟုတ်ပါဘူး၊ သီလသမာဓိ ပညာတွေနဲ့ပြည့်စုံတာဘဲဖြစ်ပါတယ်။

## အချမ်းသာဆုံးသူဌေး

ဒါနလုပ်ရာ၌ လှူဘွယ်ပစ္စည်းဟာ ပဓါနမဟုတ်၊ စေတနာသုံးတန်နဲ့ အလှူခံပုဂ္ဂိုလ်သာ ပဓါန ဖြစ်တဲ့ အကြောင်းကို ကာ၊ ညဏ်၊ ဝီရိယတုန်းက ကျွန်တော်ပြောပြခဲ့တဲ့ ဇောတိက သူဌေးအကြောင်းကို ပြန်ကြည့်ရင်လဲ ကောင်းကောင်း သိနိုင်ပါတယ်။ ဇောတိက အလောင်းလျာဟာ ပစ္စေက ဗုဒ္ဓါကို ကြံ နှစ်ချောင်း လှူလိုက်တာဘဲ၊ စေတနာ သုံးတန်လဲ ပြဋ္ဌာန်းတယ်။

အလှူခံပုဂ္ဂိုလ်ကလဲပစ္စေကဗုဒ္ဓါဖြစ်နေတော့ လူ့စည်းစိမ် နတ်
စည်းစိမ်တွေကို အကြိမ်ပေါင်းများစွာစံခဲ့ ရပြီးတဲ့နောက် ကျွန်
တော်တို့ မြတ်စွာဘုရားသခင် လက်ထက်တော်မှာ ဇမ္ဗူဒိပ်တခု
လုံးမှာ ရှင်ဘုရင်တွေထက်တောင် ပိုပြီး ချမ်းသာတဲ့အချမ်းသာ
ဆုံး သူဌေးကြီး ဖြစ်ရတယ်ဆိုတာ ကျွန်တော်ပြောပြီးခဲ့ ပြီး
ပါပြီ။ နောက်ထပ်ပြီး သာဓကတခု ထုတ်ပြ လိုပါသေးတယ်။

## တတိယသာဓကကြီး

ကျွန်တော်တို့ မြတ်စွာဘုရားသခင်၏ တတိယ သာဓကကြီး
ဖြစ်သော အလွန်ထင်ရှားကျော်စောသော ဘုရား သခင် ပရိ
နိဗ္ဗာန်စံဝင်ပြီးနောက် ပထမ သံဂါယနာပွဲကို ခေါင်း ဆောင်
ကျင်းပခဲ့သော ရှင်မဟာကဿပ အလောင်းလျာသည် ဝိပဿီ
မြတ်စွာဘုရားလက်ထက်တော်က ဗန္ဓုမတီပြည်ဝယ် သိမ်ငယ်
သော ပုဏ္ဏားဆင်းရဲအမျိုး၌ဖြစ်လာ၏။ ထိုဘဝကား တခုသော
မကောင်းမှုကံကြောင့်အလွန်ဆင်းရဲ၏။ ဟင်းရွက်ခူး ထင်း ခွေ
ဖြင့်သာ အသက်မွေးရ၏။ ဒိမိ၌ရင်း၊ မယား၌ရင်း၊ ကိုယ်ဝတ်
တထည်နှိ အပေါ်ရုံစုလျားမှာ တထည်တည်းသာရှိ၏။ ပုဏ္ဏားတို့
အစည်းအဝေး ရှိ၍ လင်သွားရလျှင် မယားအိမ်တွင်းက မထွက်
ဝံ့၊ ပုဏ္ဏေးမတို့ အစည်းအဝေးရှိ၍ မယားသွားရလျှင် လင်အိမ်
တွင်းကမထွက်ဝံ့ဖြစ်၍ ဧကသာဋကဟုအမည်ရ၏။

## နှစ်မြို့လောက်စွာ အင်္ဂါ ၈-ပါး

ဝိပဿီမြတ်စွာဘုရားလည်း သတ္တဝါအပေါင်းတို့အား ခုနစ်
နှစ်တကြိမ် တရားဟောတော်မူ၏။ ဟောချိန်နီးသောအခါပြည်
ရွာတောတောင်စောင့်သောနတ်တို့သည်ဇမ္ဗူဒိပ်ကျွန်း အလုံးကို

လှည့်ပတ်၍ မြတ်စွာဘုရား တရားဟောချိန်သင့်ပြီ၊ စည်းဝေးကြကုန်ဟု ဆော်ဩလျက် ကြီးစွာသော အုတ်အုတ် ကျက်ကျက်သည်ဖြစ်၏။ ကေသာဋ္ဌက ပုဏ္ဏားလည်း ထိုသတင်းစကားကို ကြားလျှင် တရားနာလိုသော ဆန္ဒရှိ၍ မိမိပုဏ္ဏေးမအား ဤသို့ဆို၏။ အဆွေမ တရားတော်ကိုနာခြင်းငှါ ငါသော်လည်းသွားအံ့။ သင်သော်လည်းသွားချေဟုဆို၏။ ပုဏ္ဏေးမကလည်း အကျွန်ုပ်တို့မိန်းမ မည်သည်ကား ညအခါ သွား၍မသင့်ချေ။ နေ့အခါမှကျွန်ုပ်သွားပါအံ့။ ယခုအမောင်သာသွားပါလော့ဟုဆိုပေသော် ထိုကေသာဋ္ဌကသည်လည်း ဝတ်စား ပြင်ဆင်လျက် ဘုရားရှင်ကျောင်းတော်သို့သွား၍ တရားနာလေ၏။ မြတ်စွာဘုရားလည်း မင်းနှင့် တကွသော ပရိသတ်လေးပါးတို့အား ဒါနကထာ၊ သီလကထာ၊ သဂ္ဂကထာ၊ မဂ္ဂကထာဟူသော တရားစကားအစဉ်ဖြင့် ကောင်းကင်မြစ်ကြီး စီးဘိသကဲ့သို့ နှစ်မြို့လောက်စွာ အင်္ဂါရှစ်ပါးသော အသံဖြင့် စိတ်ဖန်ကာ ဟောတော်မူ၏။

## လှူအံ့သောအကြံ

ပရိသတ်စွန်ကနေ၍သာ တရားတော်ကို နာရသော ကေသာဋ္ဌကလည်း အဆအရာဝမ်းသာနှစ်မြို့ခြင်းရှိ၍ ပီတိ ငါးပါးဖြစ်လျက် ပခုံးထက်၌ ပါသော စုလျား ပုဆိုးကို စုပုံ လျက် ဤဝတ္ထုကို ဘုရားရှင်အား လှူတော့အံ့ဟုကြံ၏။ တဖန်လည်း ဤစုလျားကို ငါလှူ၍သွားခဲ့သော် ပုဏ္ဏားတို့ အစည်း အဝေးရှိသောအခါ ငါလည်းမဝင်စံ့၊ ပုဏ္ဏေးမလည်းမဝင်စံ့ရှိချိမ့်မည်။ နောက်တထည်ရမှပင် လှူတော့အံ့ဟုကြံပြန်၏။ ဤသို့ စသည်ဖြင့် သဒ္ဒါစိတ်တရံဖြစ်သည်ကိုမစ္ဆေရစိတ်တထောင်မျှလောက်

ဖျက်၍ ပခုံးထက်၌ တင်မြဲတင်ပြန်၏။ တဖန်လှူဦးမည်ဟု ကြံစည်ပြန်လျှင် ယခင်နည်းကဲ့သို့ စေးနဲ စုံမက်သော မဒ္ဒေရစိတ်သာကပ်ငြိ၍ မလှူမိဘဲ၊ ပထမ ယာမ်၊ မဇ္ဈိမ ယာမ် လွန်မြောက်၍ ပစ္ဆိမ ယာမ်သို့ ရောက်လေသော် မိမိကိုယ်ကို မိမိနှလုံးဖြင့် ဆိုဆုံးမသည်ကား အချင်း ကောသာဋ္ဌက၊ သင်သည် ဤတသည်မျှလောက်သော ပုဆိုးကိုလျှက် မလှူရက်သကဲ့သို့ အထက်ထက်သော ဘဝက မဒ္ဒေရနောက်သို့ လိုက်လံကာ ဒါန ကောင်းမှုကို မပြုခဲ့သောကြောင့် ယခုဘဝ၌ ဆင်းရဲ ရသည်မဟုတ်လော၊ နောက်နောင်သော ဘဝတို့၌ လည်း ဤကဲ့သို့ ဆင်းရဲလိုသလော၊ အဆောတလျင် သင်လှူဖွယ်သာ ဒါနဖြစ်ပေတော့မည်ဟု တိုက်တွန်းဆုံးမ၍ ပခုံးမှပုဆိုးလျှားကိုချပြီးလျှင်ဘုရားရှင်ခြေတော်ရင်း၌ထား၍ အားရဝမ်းသာသဖြင့် လက်ျာ လက်ဖြင့် ပန်းပေါက်တီးချက် အောင်ပြီဟု သုံးကြိမ်ဆို၏။ ထိုအသံကို ဗန္ဓုမမင်းကြီး ကြားလေလျှင် သင်တို့အား အဘယ်သူကို အောင်သနည်းဟု မေး၏။ ကောသာဋ္ဌကလည်း ညှိယို၍ အကြံဖြစ်သည်မှစ၍ မဒ္ဒေရနှင့် တွေ့ခါသည့် အခါခါ စစ်ပြိုး ကြနေတွင် ယှဉ်မာခဲ့သော မဒ္ဒေရကိုသည် ပစ္ဆိမ ယာမ်မှ ရှုံးနိမ့်လျက် လှူနိုင်သည်ဖြစ်၍ ထိုမဒ္ဒေရကို အောင်ပြီဆိုပါသည်ဟု လျှောက်၏။ မင်းကြီးလည်းအားရဝမ်းသာလှစွာချီးပ၍ တန်ဖိုးမျှသော ပုဆိုးကိုပေး၏။ ကောသာဋ္ဌကလည်း ဘုရားကျေးဇူးတော်ကို မှီ၍သာ ရသောဝတ္ထုဖြစ်ရကား ဘုရားနှင့်သာ ထိုက်ပေသည်ဟု ကြံ၍ တဖန်လှူပြန်၏၊ ထိုသို့လှူသည်ကိုမင်းကြီး ကြားပြန်လျှင် နှစ်စုံပင် ယခင်၍ပေး၏။ ကောသာဋ္ဌကသည်း ဘုရားအား လှူပြန်၏၊ တဖန် ၄ စုံရင်း၊ ရှစ်စုံရင်း ပေးပြန်လျှင်လည်း ယခင်ကဲ့သို့ အကုန်ပင် လှူ၏။ ထို့နောက်တဆယ့်ခြောက်စုံပေးလေသော် ဤကောသာဋ္ဌကသည်

တဆတဆရမှန်းသိ၍သာလှူသည်ဟု သူတထူးတို့ ကဲ့ရဲ့ရာ ဖြစ်တော့မည်ဟုကြံ၍ မိမိအဖို့တစုံ၊ မယားအဖို့တစုံထား၍ အကြွင်းကို ဘုရားရှင်အားလှူ၏၊ ထိုအခါမှစ၍ ကောသာငှကသည် ဘုရားသခင်နှင့်အကျွမ်းဝင်ကြ၍ သရဏာဂုံသီလကို ခံလျက် ဘုရားရှင်ထံ နိယံပြေတ် ဆည်းကပ်ခစားသတည်း။ တရံသော ကာလဆောင်းလအခါ မဟာဗန္ဓုမမင်းကြီးသည်ဘုရားရှင်ထံတရားနာခြင်းငှါ လာရောဝယ် အသပြာတသိန်းထိုက်သော ကမ္ဗလာတစုံကို ပဋ္ဌုဏ္ဏရာဇာတိုင်းမှ ဆက်လာ၍ရသဖြင့်၊ ဘုရား ထံပါးတွင် နေသော ထိုကောသာငှကအား ဤကမ္ဗလာအစုံကို အမြတ်ရှိ၍ တရားတော်ကိုနာပါဘုရား ရှင်အမှုကိုဆောင်ရွက်ပါဟုဆို၍ပေး၏၊ ကောသာငှကလည်းကောင်းမြတ်လှသောကမ္ဗလာဖြင့် အပုပ်ကောင်သာဖြစ်သော ငါ၏ကိုယ်ကိုဆင်ယင်၍ အဘယ်အကျိုးရှိအံ့နည်း၊ ဘုရားကိုလှူရမှ ဘဝဆက်တိုင်းပါရာ၏ဟု ကြံ၍ ဘုရားစံရာ ဂန္ဓကုဋီဝယ် တထည်ကိုအခင်းပြုလျက်တထည်ကို ဗိတာန်ကြက်၍ လှူ၏။

## ရောင်ခြည်တော်အဟုန်

တနေ့သ၌ မင်းကြီး ကျောင်းသို့ လာ လတ် သော် ကိုယ်တော်မြတ်၏ ရောင်ခြည်ဟုန်သည် အစုံသော ကမ္ဗလာရောင်ဖြင့် ကူးရှက်ရကား ပြိုးပြိုးပြက်ထွန်းသော ပတ္တမြားတောင်ကို နေရောင်လရောင်ဖြင့်ဟပ်သကဲ့သို့ တလျှပ်လျှပ် တညီးညီးအံ့ချီးစဘွယ်ဖြစ်၍နှစ်သက်ဝမ်းသာစွာ ဤကမ္ဗလာကို ဘယ်ဒါယကာလှူပါသနည်းဟု လျှောက်မေး၏။ ကောသာငှက လှူကြောင်းကို ဘုရားမိန့်တော်မူသဖြင့် သိလေလျှင် အရှင်ဘုရားဤကမ္ဗလာကို ကောသာငှကအား အကျွန်ုပ်ပေးပေသည်။ ကောသာငှကလည်း

သင့်တင့်သော ဌာနနှင့်ပင် ထားပေးသည်ဟုဆို၍ ကြည်ညိုဝမ်းသာ ပြောဟောပြီးမှ ထိုကေသာဋကကိုခေါ်၍ သံဃာတော်တို့၏ အလုပ်အကျွေးကို ပြုစိမ့်သောငှာ အသပြာ တသိန်းထွက်သော ရွာကြီးရှစ်ရွာ ရထားစီး ကညာရှစ်ယောက်၊ ဆင်ပေါက်ရှစ်စီး၊ ကျွန်သီးရှစ်အိမ်ထောင်၊ရှစ်ဆောင်သောတိုက်ပြာသာဒ်၊ရှစ်ရပ်စီသာ ဖြစ်သော ဆင်၊ မြင်း။ ကျွဲ၊နွားတို့ကို ပေးတော်မူ၏။ ကေသာဋကလည်း ထိုနေ့မှစ၍ ဒါန၊သီလ ဘာဝနာကိုလွန်စွာ အားထုတ်လျက် အသက်ဆုံးသောအခါ တာဝတိံသာ နတ်ပြည်၌ ဖြစ်လေ၏။

ဒီသာဓကနဲ့ဘဲ ဒါန မှာ အလှူပစ္စည်း ဟာ ပဓါန မဟုတ် စေတနာသုံးတန်နဲ့ အလှူခံပုဂ္ဂိုလ်သာ ပဓာနဖြစ်တဲ့အကြောင်း ထင်ရှားပါပြီ။

ဒီသာဓကကိုပြပြီးတဲ့နောက် စေတနာသုံးတန်အကြောင်းကို ပို ပြီး သ ဘော ပေါက် အောင် ထင် ရှား တဲ့ သာ ဓ က တ ခု ကို ကျွန်တော်ထုတ်ပြလိုပါတယ်။

## သတ္တကနိပါတ်ကုက္ကုဝဂ် ပဏ္ဏကဇာတ်

ရှေးတုန်းက ဗာရာဏသီပြည်မှာ မဒ္ဒဝမည်တဲ့ မင်းတပါး အုပ်စိုးပါတယ်။ အဲဒီအခါ ဘုရားအလောင်းတော်ဟာ ပုဏ္ဏားမျိုးမှာဖြစ်ပြီး သေနကအမည်ရှိပါတယ်။ သေနက အရွယ်ရောက်တဲ့အခါ တက္ကသိုလ်ကိုသွားပြီး အတတ်ပညာတွေကို သင်ပါတယ်။ သင်အပ်တဲ့ပညာတွေ တတ်မြောက်ပြီးတဲ့နောက် ဗာရာဏသီပြည်ကို ပြန်လာတဲ့အခါ မဒ္ဒဝမင်းကို အကျိုးအကြောင်း ဆုံးမတတ်တဲ့အမတ် ဖြစ်လာပါတယ်။

အဲဒီအခါပုရောဟိတ်ရဲ့သားဟာ တနေ့ကျတော့ သူ့အဖေနဲ့အတူတူ မင်း ခ စား ဘို့ နန်း တော် ကို လိုက် သွား ပါ တယ်။ နန်းတော်မှာအင်မတန်လှပတဲ့ မိဖုယားကြီးကိုမြင်ပြီး မထိန်းနိုင်မသိမ်းနိုင်အောင် တပ်မက်သွားပါတယ်။

ဒီပုရောဟိတ်ရဲ့သားဟာ အိမ်ကိုပြန်ရောက်တဲ့အခါ အစာရေစာမစားမသောက်နိုင်တော့ဘဲ မိဖုယားကြီးကိုစွဲလန်းစိတ်နဲ့ အိပ်ရာထဲမှာလဲနေပါတယ်။အဲဒီအကြောင်းကို မဒ္ဒဝမင်းကြီးသိတဲ့အခါ သူ့မိဖုယားကြီးကို လှူလိုတဲ့အကြံဖြစ်လာပြီးမိဖုယားကြီး ၇ ရက်လှူမယ်လို့ကတိပေးလိုက်တယ်။အဲဒါဟာ မလှူခင်ဖြစ်ပေါ်တဲ့ စေတနာဖြစ်တယ်။

အဲဒီလိုကတိပေးပြီး သူ့ကတိအတိုင်း ပုရောဟိတ်ရဲ့ သားကို သူ့မိဖုယားကို ၇ ရက်လှူလိုက်တယ်။အဲဒါဟာ လှူနေတုန်းဖြစ်ပေါ်တဲ့ စေတနာဖြစ်တယ်။

ပုရောဟိတ်ရဲ့သားနဲ့ မိဖုယားကြီးတို့ ပေါင်းမိ ကြပြီးတဦးနဲ့တဦးတပ်မက်သွားကြတဲ့အတွက် ၇ ရက်မြောက်ပြီးတဲ့နောက် မိဖုယားကြီးဟာ မင်းကြီးဆီကိုပြန်မလာတော့ဘူး။ ပုရောဟိတ်ရဲ့သားနဲ့တိုင်းတပါးကို ခိုးရာလိုက်ပြေးတယ်။

မင်းကြီးလဲ သူ့နိုင်ငံထဲမှာ စည်လှည့်လည်စေပြီး အရှာခိုင်းပေမဲ့ သူ့မိဖုယားကြီးဟာ ပုရောဟိတ်သားနဲ့ တိုင်းတပါးကို ရောက်နေလေတော့ ဘယ်မှာတွေ့မှာလဲ၊မင်းကြီးလဲမိဖုယားကြီးအတွက် ရတက်တွေပွေပြီး မစားနိုင် မအိပ်နိုင်ဖြစ်ရာ သွေးအန်တဲ့ရောဂါစွဲကပ်လာပါရော၊ အဲဒါဟာ လှူပြီးတဲ့နောက် ပျက်သွားတဲ့ စေတနာဖြစ်ပါတယ်။

အဲဒီအခါ ဘုရားအလောင်းကြီးက ဒီ မင်း ကြီး မှာ အ ခြားဝေဒနာမရှိဘူး၊ မိဖုယားကြီးကိုစွဲလန်းပြီးဖြစ်နေတဲ့ စိတ္တဇနာ

သာရှိတယ်။အဲဒီတော့ ဥပါယ်တမျဉ်နဲ့ ကုစားမှဘဲ ရတော့မှာဘဲလို့ စိတ်ကူးမိတယ်။

အဲဒါနဲ့ အာယုရနဲ့ ပဏ္ဍုသဆိုတဲ့ မင်းကြီးရဲ့ ပညာရှိအမတ်-၂ဦးကိုခေါ်ပြီး မင်းကြီးရဲ့ ဝေဒနာအကြောင်းကိုလဲ ပြောပြတယ်။လုပ်ဘို့အစီအစဉ်တွေကိုလဲ စီစဉ်ပေးလိုက်တယ် ။

အဲဒီလိုစီစဉ်ပေးလိုက်တဲ့အတိုင်း နန်းတော်ထဲမှာ ပွဲအကြီးအကျယ်ခံစေပြီး မင်းကြီးကိုယ်တိုင်ရှုစားဘို့ သံတော်ဦး တင်ကြတယ်။

## ရောဂါသက်သာသွားပုံ

ပရိသတ်တွေမျိုးစုံကလဲ တတ်တဲ့ပညာတွေနဲ့ မင်းကြီးကို ဖျော်ဖြေကြတယ်၊ အဲဒီပညာသည်တွေထဲမှာ မျက် လှည့်ဆရာတဦးပါလာပါတယ်။ အဲဒီမျက်လှည့်ဆရာက သုံးဆယ့်သုံးလက်သာစ်ရှိတဲ့ အင်မတန်ထက်လှတဲ့သန်လျက်ကြီးကိုမျိုပြပါတယ်။ အဲဒါကို မင်းကြီးရှုစားရက်အခါအလွန်အံ့ဩပြီး ဒီလိုသန်လျက်ကိုမျိုတာထက် ခက်ခဲတာဟာ လောကမှာ ရှိသေးသလားလို့ မေးလိုက်ပါတယ်။အဲဒီအခါဘုရားအလောင်းရဲ့ စီစဉ်ချက် အရ အနားမှာ ရှိနေတဲ့ အာယုရ အမတ်က ဘုရားအလောင်းသင်ပေးထားတဲ့အတိုင်း အရှင်မင်းကြီး ပေးဘို့ အင်မတန်ခက်ခဲလှတဲ့ ပစ္စည်းတခုကိုပေးမယ်လို့ ကတိပြုနိုင်တာဟာ ဒီဟာထက်ခက်လှပါတယ်ဘုရားလို့ သံတော်ဦးတင်လိုက်တယ်၊ ဒီအခါမင်းကြီးလဲ သတိရပြီး အင်း-ငါဟာ အလွန် ခက်ခဲလှတဲ့ အလှူကိုလှူမယ်လို့ ကတိပြုနိုင်တယ်။အဲဒီတော့ငါဟာ အင်မတန်ခက်ခဲတာမျိုးကိုကုနိုင်တာဘဲလို့ တွေးတောမိကာမှနဲ့ မင်းကြီးရဲ့ရောဂါဟာသက်သာသွားပါတယ်၊

အဲဒီနောက် ပဏ္ဏသဒ္ဒမတ်က ဘုရားအလောင်း သင်ပေးထားတဲ့အတိုင်း အရှင်မင်းဘုရား ဒီခက်ခဲလှတဲ့အလှူကို ပေးမယ်လို့ ကတိပြုနိုင်တာထက် တကယ်ပေးနိုင်တာက ပိုပြီးခက်ပါတယ်လို့ ဆက်ပြီးသံတော်ဦးတင်ပြန်တယ်၊ အဲဒီအခါမင်းကြီးလဲ နောက်ထပ်သတိရပြန်ပြီး အင်း- အင်မတန် ခက်တဲ့အလှူကို ငါ ပေးမယ်လို့ ကတိပြုပြီး တကယ်လဲ ပေးနိုင်ခဲ့တယ်။ အဲဒီတော့ ငါဟာ အင်မတန်ကြီးမားခက်ခဲတဲ့အလုပ်ကို ငါလုပ်နိုင်ခဲ့တာဘဲလို့ နောက်ထပ်တွေးတောမိကာမျှနဲ့ မင်းကြီးရဲ့ ရောဂါဟာ ပိုပြီးသက်သာသွားပြန်တယ်။

## တရားနှင့်နှလုံးသွင်းခြင်း

အဲဒီအခါကျတော့မှ ဘုရားအလောင်းက အရှင်မင်းကြီး လှူပြီးတဲ့အခါ ဒီလှူတဲ့ပစ္စည်းအတွက် မစိုးရိမ်မပူပန်ဘဲနေနိုင်ဘို့ ဆိုတာကတော့ အခက်ဆုံးဖြစ်ပါတယ်ဘုရားလို့ ဆက်ပြီး သံတော်ဦးတင်ပြန်တယ်၊ အဲဒီတော့မှ မင်းကြီးလဲ သတိကောင်းကောင်းရလာပြီး အင်း- ငါဟာ ငါ့သဘော အတိုင်း လှူပြီးခါမှ ဒီလိုပူဆွေးခြင်းဟာမသင့်လျော်ပါကလား၊ မိဖုယားကြီးဟာ ငါ့ကိုချစ်ရင်အခုလို ခိုးရာလိုက်မပြေးတန်ဘူး။ အခုတော့ ငါ့ကိုမချစ်လို့ ထွက်ပြေးတာဘဲ။ ဒီလို ငါ့ကို မချစ်တော့ဘဲ မိဖုယားကြီးအတွက် ပူဆွေးနေလို့ ဘာအကျိုး ရှိဦးမှာလဲလို့ နောက်ထပ်တွေးမိကာမျှနဲ့ မင်းကြီးရဲ့ ရောဂါဝေဒနာဟာ လုံးဝပျောက်ကင်းသွားခဲ့ဘူးပါတယ်။ အဲဒါ တခြားဟာမဟုတ်ပါဘူး။ လှူပြီးတဲ့အခါ ပျက်သွားတဲ့ စေတနာဟာ တရားနဲ့ အသင့်အတင့်နှလုံးသွင်းနိုင်တာကြောင့် ပြန်ကောင်းလာတာဘဲ ဖြစ်ပါတယ်။

## စေတနာသုံးတန်

အခုပြခဲ့တဲ့ သာဓကတွေကိုကြည့်ပြီး ဒါန ကိုလည်း လုပ်နိုင်သလောက်ကြိုးစားပြီးလုပ်ပါ၊ လုပ်တဲ့နေရာမှာလည်း မြတ်သထက် မြတ် တဲ့ ပုဂ္ဂိုလ်တွေကို စေ တ နာ သုံး တန် ပြဋ္ဌာန်း ပြီး လှူဒါန်းကြပါလို့ ကျွန်တော်တိုက်တွန်းလိုက်ပါတယ်။

၁၅ သုစရိုက်တရားဆယ်ပါးတို့ကို ကျင့်သုံးခြင်းဟာလည်း မင်္ဂလာတပါးဖြစ်ပါတယ်။

သုစရိုက်တရားဆယ်ပါးကို ကျင့်ရမယ်ဆိုတာနဲ့ တ ခြား တရားတွေကိုကျင့်ဘို့မလိုဘူးလို့ မယူဆရဘူး။ ဒီသုစရိုက်တရား ဆယ် ပါး ကို ပ ဓါ န ထား ပြီး တ ခြား တ ရား တွေ လဲ အ ခါ အားလျော်စွာ ကျင့်ရပါလိမ့်မယ်။

အဲဒီတော့ သုစရိုက်တရားဆယ်ပါးဆိုတာဘာလဲ။

၁ သေ စေ လို သော စိတ် ဖြင့် သူ့ အ သက် ကို သတ် ခြင်း (ပါဏာတိပါတ)

၂ ခိုးလိုသောစိတ်ဖြင့် သူတပါးဥစ္စာကိုခိုးယူခြင်း၊ (အဒိန္နာဒါန)

၃ ယောကျာ်းဖြစ်က မယားမလာအပ်သော မိန်းမတို့၌ သွားလာခြင်း၊ မိန်းမဖြစ်က မိမိခင်ပွန်း ယောကျာ်းမှ တပါး အခြားသောယောကျာ်းနှင့် ပေါင်းဖော်ခြင်း(ကာမေသု မိစ္ဆာစာရ)

၄ မဟုတ် မမှန်သော စကားကို ဆိုခြင်း (မုသာဝါဒ)

၅ ဂုံးတိုက် ဂုံးချော စကားကို ပြောကြားခြင်း၊ (ပိသုဏာဝါစာ)

၆ ဆဲရေးတိုင်းထွာခြင်းဟူသော ကြမ်းတမ်းယုတ်မာသော စကားကိုပြောဆိုခြင်း၊ (ဖရုသဝါစာ)

၇ ဟုတ်မှန်သော အနက် ဒြဗ်မှကင်း၍ ပြိန်ဖျင်းသော တကယ်မဟုတ် လုပ်ကြံအပ်သော စကားဟူသော ဒဏ္ဍာရီဝတ္ထု ကိုပြောဆိုခြင်း၊ရေးသားခြင်း။ (သမ္ဖပ္ပလာပ)

၈ သူတပါး၏ဥစ္စာကို ငါ၏ဥစ္စာ ဖြစ်ပါမူကား ကောင်း လေစွဟု ကြံခြင်း၊ (အဘိဇ္ဈာ)

၉ ဤသတ္တဝါများ သေကြေပျက်ပြားလျှင် တော်လေစွဟု စိတ်ကကြံခြင်း။ (ဗျာပါဒ)

၁၀ ကောင်းမှု မကောင်းမှု၏ အကျိုးကိုမယုံကြည်ခြင်း။ (မိစ္ဆာဒိဋ္ဌိ)

ဤဆယ်ပါးတို့သည် ဒုစရိုက်တရားတို့မည်ကုန်၏။ ထိုဆယ်ပါးသော ဒုစရိုက်တရားတို့မှ ရှောင်ကြဉ်ခြင်းသည် သုစရိုက်မည်၏။

## ဒုစရိုက် သုစရိုက် အပြစ်အကျိုး

ထိုဒုစရိုက်ဆယ်ပါး၊ သုစရိုက်ဆယ်ပါးတို့၏ အပြစ်အကျိုး တို့ကို ပြဆိုဦးအံ့။

၁ ပါဏာတိပါတ။ ။သေသည်၏အခြားမဲ့၌ အပါယ် ဘုံသို့ လားရောက်ခြင်း၊ အကယ်၍ လူ့အဖြစ်ကို ရငြားအံ့။ အတွင်းသို့ခွင်သော ခြေရှိခြင်း၊ အပြင်သို့ခွင်သော ခြေရှိခြင်း၊ ကုန်းခြင်း၊ ကွခြင်း၊ ဘွဲ့ခြင်း၊လက်ချောင်းပူးခြင်း၊အနာရောဂါ များခြင်း၊အသက်တိုခြင်းစသည်တို့ကား သူတပါး၏ အသက်ကို သတ်ခြင်း၏ အပြစ်တို့တည်း။

၁ ပါဏာတိပါတာ ဝေရမဏီ။ ။အင်္ဂါကြီးငယ် ချို့တဲ့ခြင်းမရှိ ပကတိပြည့်စုံခြင်း၊ ပြေပြစ်ချောမွတ်သော အလုံးအရပ်နှင့် ပြည့်စုံခြင်း၊ စင်ကြယ်တောက်ပသောအရောင်အဆင်းရှိခြင်း။ နူးညံ့သော အသားအရေနှင့် ပြည့်စုံခြင်း၊ ခွန်အားဗလကြီးမားခြင်း၊ လူအပေါင်းတို့ ချစ်မြတ်နိုးသည်ကို ခံရတတ်ခြင်း၊ ကြောက်ရွံ့ထိတ်လန့်သော သဘောမှကင်းခြင်း၊ သူတပါးတို့၏ လုံ့လပယောဂကြောင့် မသေမပျောက်ရခြင်း၊ အခိုင်းအခြားမရှိ များစွာသော ပရိသတ်နှင့်ပြည့်စုံခြင်း၊ ရှုကြည့်ဖွယ် ဟင့်တယ်သော ကိုယ်သဏ္ဌာန်ရှိခြင်း၊ အနာရောဂါကင်းခြင်း၊ စိုးရိမ်သောကမရှိခြင်း၊ ချစ်သောသူတို့နှင့် မကွေကွင်းရခြင်း၊ အသက်ရှည်ခြင်း စသည်တို့ကား သူတပါး အသက်ကို သတ်ခြင်းမှ ရှောင်ကြဉ်ခြင်း၏ အကျိုးတို့တည်း။

၂ အဒိန္နာဒါန။ ။သေသည်၏အခြားမဲ့၌ အပါယ်ဘုံသို့ လားရခြင်း။ အကယ်၍လူ့အဖြစ်ကိုရငြားသော်လည်း ရန်သူမျိုး ငါးပါးနှိပ်စက်၍ ဥစ္စာပစ္စည်း ပျက်စီး ပြုန်းတီးရခြင်း၊ လူမွဲ လူတေ လူလေ လူလွင့်ဖြစ်ရခြင်း၊ ကြမ်းတမ်းသောကိုယ်မှု နှုတ်မှု စိတ်မှုရှိသူနှင့်သာ တွေ့ရတတ်ခြင်းစသည်တို့ကား သူတပါး ဥစ္စာကို ခိုးခြင်း၏ အပြစ်တို့တည်း။

၂ အဒိန္နာဒါနာ ဝေရမဏီ။ ။ရွှေငွေစသော ဝစ္စည်း ဘဏ္ဍာ ပေါဆန့်ရေ အထွေထွေသောဥစ္စာတို့နှင့် ပြည့်စုံခြင်း၊ မဖြစ်ဘူးမြဲ ဘူးကဲသောစည်းစိမ်ချမ်းသာတို့ဖြစ်ပေါ်လာရခြင်း၊ ဖြစ်ပြီးသော စည်းစိမ်ချမ်းသာလည်း မြဲမြံစွာ တည်တံ့ခြင်း၊ လူအများတို့ထက်ဂုဏ်အားဖြင့် မြင့်မြတ်ခြင်း၊ နှလုံးစိတ်ဝမ်း ချမ်းမြေ့သာယာစွာနေရခြင်း၊ အလိုရှိသော ပစ္စည်းဥစ္စာတို့ကို

လျင်မြန်စွာရခြင်း၊ ရန်သူမျိုးငါးပါးတို့ကြောင့် ပျက်ပြားမရှိရခြင်း၊သိမ်မွေ့နူးညံ့သော ကိုယ်မှု နှုတ်မှု စိတ်မှု ရှိသူတို့နှင့်သာ တွေ့ရတတ်ခြင်းစသည်တို့ကား သူတပါးဥစ္စာကို ခိုးယူခြင်းမှ ရှောင်ကြဉ်ခြင်း၏ အကျိုးတို့တည်း။

၃ ကာမေသုမိစ္ဆာစာရ။ ။သေသည့်၏ အခြားမဲ့၌ အပါယ်ဘုံသို့ လားရခြင်း၊ဖြစ်လေရာဘဝတို့၌ ရန်သူပေါများခြင်း၊အရေမရှိသောပြိတ္တာဖြစ်၍ ကျီးငှင်းတတို့ ထိုးဆွ နှိပ်စက်သည်ကိုခံရခြင်း၊နပုန်းပဏ္ဍုက်ဖြစ်ရခြင်း၊ဆင်းရဲစွာ အိပ်ရခြင်း၊ နိုးရခြင်း၊ လည်တိုင်အောက်ကျခြင်း၊ မျက်နှာအောက်ကျခြင်း၊ မပြည့်စုံသောကိုယ်အင်္ဂါရှိခြင်း၊ စိတ်နှလုံးမချမ်းသာရခြင်း စသည်တို့ကား မသွားလာအပ်သောမိန်းမတို့၌ သွားလာရခြင်း၊ မိမိလင်ယောကျ်ားမှတပါး အခြားသော ယောကျ်ားတို့နှင့် ပျော်ပါးခြင်းတို့၏ အပြစ်တို့တည်း။

၃ ကာမေသုမိစ္ဆာစာရာဝေရမဏီ။ ။ရန်သူဟူ၍ တစုံတယောက်မျှမရှိခြင်း၊ရဟန်းရှင်လူ ခပ်သိမ်းသူတို့ကြည်ဖြူ ချစ်ခင်ခြင်း၊စားဘွယ်ဝတ်ရုံဘွယ်တို့နှင့်တကွ အိပ်ရာ နေရာစသည်တို့ကို အလိုရှိတိုင်းရနိုင်ခြင်း၊မပင်မပန်း ချမ်းမြေ့သာယာစွာအိပ်စက်ရခြင်း၊ နိုးကြားရခြင်း၊ အပါယ်ဘေးမှ ကင်းဝေးရခြင်း၊မိန်းမ နပုန်း လုံးလုံးမဖြစ်ရခြင်း၊အမျက်ဒေါသ ကင်းပ နည်းပါးခြင်း၊ လည်တိုင်အောက်ကျ မရှိရခြင်း၊ မျက်နှာအောက်ကျ မရှိရခြင်း၊ မယားနှင့်လင် ကြင်နာချစ်ခင်ခြင်း၊ ချွတ်ယွင်းခြင်းမရှိ ပြည့်စုံသော အင်္ဂါရှိခြင်း၊စိတ်နှလုံးချမ်းသာစွာနေရခြင်းစသည်တို့ကား မသွားမလာအပ်သောမိန်းမတို့၌ သွားလာခြင်း၊ ခင်ပွန်းယောကျ်ားမှတပါး အခြားသောယောကျ်ားတို့နှင့်ပျော်ပါးခြင်းမှ ရှောင်ကြဉ်ရခြင်း၏ အကျိုးတို့တည်း။

၄ မုသာဝါဒ။ ။သေသည်၏အခြားမဲ့၌ အပါယ်ဘုံသို့ လားရခြင်း၊ ဖြစ်လေရာရာဘဝတို့၌ သူတကာတို့ စွပ်စွဲသည်ကို ခံရခြင်း၊ ကြည်လင်သောဣန္ဒြေမရှိခြင်း၊ အသံမကောင်းခြင်း၊ သွားမလှခြင်း၊ မိမိစကားမယုံကြည်ကြခြင်း၊မိမိစကားကို နားမထောင်ကြခြင်း၊ ခံတွင်းအနံ့မကောင်းခြင်း၊ လျှာသေးခြင်း စသည်တို့ကား မဟုတ်မမှန်သောစကားကို ပြောဆိုခြင်း၏အပြစ်တို့တည်း။

၄ မုသာဝါဒါဝေရမဏီ။ ။သန့်ရှင်း ကြည်လင် ရွှင်ပျသော ဣန္ဒြေရှိခြင်း၊ သန့်ရှင်းချိုသာသော အသံနှင့် ပြည့်စုံခြင်း၊ နှစ်သက်စဘွယ် စင်ကြယ်ဖြူဖွေးသောသွားရှိခြင်း၊ ဆူကြုံ နိမ့်မြင့်သောအပြစ်မှကင်းလွတ်ရခြင်း၊နှုးညံ့ပြေပျောင်း ကောင်းသောအတွေ့နှင့်ပြည့်စုံခြင်း၊မိမိအလိုသို့ လိုက်နာကြသောပရိသတ်နှင့် ပြည့်စုံရခြင်း။ မိမိစကားကိုလူအများတို့ အားထား ယုံကြည်ကြခြင်း၊ကြာညိုပန်းအနံ့ကဲ့သို့ သင်းပျံ့မွှေးကြိုင်လှိုင်သော ခံတွင်းနံ့ရှိခြင်း၊ကြာချပ် ကြာရွက်အလား နုထွား နီမြန်းသည် ဖြစ်၍ ကြီးပြန့်သော လျှာနှင့်ပြည့်စုံခြင်း စသည်တို့ကား မဟုတ် မမှန်သောစကားကို ပြောဆိုခြင်းမှ ရှောင်ကြဉ်ခြင်း၏ အကျိုးတို့တည်း။

၅ ပိသုဏာဝါစာ။ ။သေသည်၏အခြားမဲ့၌ အပါယ်ဘုံသို့ လားရခြင်း၊ သ[illegible] ၊ ဘားမသော[illegible] ၊ သော လေင်ခင်မှုန်း၊ တပည့်သားမြေး[illegible] ပရိသတ်တို့နှင့် ကွဲပြားရခြင်း၊ သွားကျိုးခြင်း၊သွားမညီညွတ်ခြင်း စသည်တို့ကား ချောပစ်ဂုံးတိုက်ခြင်း၏ အပြစ်တို့တည်း။ •

၅ ပိသုဏာဝါစာဝေရမဏီ။ ။သူတပါးတို့ လုံ့လ ပယောဂကြောင့် မပျက်စီး မသေကြေနိုင်သော ကိုယ်ခန္ဓာနှင့်

ပြည့်စုံခြင်း၊ တပည့်သားမြေး သားမယား၊ သားလင် ခင်ပွန်းစသော ခြွေရံ ပရိသတ်တို့ မပျက် မကွဲ ခိုင်မြဲ တည်တံ့ နိုင်ခြင်း၊ မိတ်ဆွေတို့နှင့် ဘယ်အခါမှမကွဲ မြဲမြံသော အဆွေခင်ပွန်း ရှိခြင်း၊ အမျိုးလေးဆယ်သောသွား၊ မကျဲသောသွားတို့နှင့် ပြည့်စုံခြင်းစသည်တို့ကား ချောပစ်ဂုံးတိုက်ခြင်းမှ ရှောင်ကြဉ်ရခြင်း၏ အကျိုးတို့တည်း။

၆ ဖရုသဝါစာ။ ။သေသည်၏အခြားမဲ့၌ အပါယ်ဘုံသို့ လားရခြင်း၊ ဤဘဝတွင် အရိယူပဝါဒကံ ထိုက်တတ်ခြင်း၊ မရသေး သော စည်းစိမ်ကို မ ရ နိုင် ခြင်း၊ ရပြီး သော စည်းစိမ်မှ ဆုတ်ယုတ်ခြင်း၊ ပြင်းထန်သောအနာရောဂါကိုရခြင်း၊ စိတ်ပြန့်လွင့်ခြင်း၊ရူးသွပ်ခြင်း။ဖြစ်လေရာရာဘဝတို့၌ ပွဲသောလျှာရှိခြင်း၊ လျှာတိုခြင်း၊ လျှာနှစ်ခွရှိခြင်း၊ အ,ခြင်းဆွံ့ခြင်း၊ အသံကွဲခြင်း၊ အသံအဲ့ခြင်း၊မိမိစကားကိုသူတပါးနားမထောင်လိုခြင်းစသည်တို့ကား လွှသွားပမာ ကြမ်းတမ်းယုတ်မာသောစကားကို ပြောဆိုခြင်း၏ အပြစ်တို့တည်း။

၆ ဖရုသဝါစာဝေရမဏီ၊ ။ရှေးဟန်းရှင်လူ ခပ်သိမ်း သူတို့ ကြည်ဖြူချစ်ခင်ခြင်း၊ သူခပ်သိမ်းတို့စိတ်နှလုံးကို ယူကျုံးနှစ်သက်စေခြင်း၊နားချမ်းသာဘွယ်ရာ ချိုသာအေးမြသော စကားရှိခြင်း၊သူတကာတို့နှစ်မြို့ချိုးမွမ်းသည်ကို ခံရခြင်း၊ နူးညံ့သိမ်မွေ့သည်ဖြစ်၍ ကြီးပြန့်သောလျှာရှိခြင်း သာယာသောအသံရှိခြင်း စသည်တို့ကား လွှသွားပမာ ကြမ်းတမ်းယုတ်မာသောစကားကို ပြောဆိုခြင်းမှ ရှောင်ကြဉ်ရခြင်းအကျိုးတို့တည်း။

၇ သမ္ဖပ္ပလာပ။ ။သေသည်၏အခြားမဲ့၌ အပါယ်ဘုံသို့ လားရခြင်း၊ ဖြစ်လေရာရာဘဝတို့၌ ဝင်သော မေး ရှိခြင်း၊

ကောက်သောမေးရှိခြင်း၊ ချိုင့်သောမေးရှိခြင်း၊ မိမိစကားကို သူတပါးမယုံကြည်နားမထောင်လိုခြင်းစသည်တို့ကား ဟုတ်မှန်သောအနက်ဖြစ်မှုကင်း၍ ပြိန်ဖျင်းသောစကားကိုပြောဆိုခြင်း၏ အပြစ်တို့တည်း။

၇ သမ္ဘိန္နပလာပါဝေရမဏီ။ ။ရဟန်း ရှင် လူ ခပ် သိမ်း သူတို့ကြည်ဖြူချစ်ခင်ခြင်း၊ သူခပ်သိမ်းတို့၏ စိတ်နှလုံးကို ယူကျုံးနှစ်သက်စေခြင်း။ ကျောက်ထီး တန္ဆ၊ အလေးအမြတ် ပြုသည်ကို ခံရခြင်း၊ ချီးမွမ်းမြှောက်စားသည်ကိုခံရခြင်း၊ မနှိုင်းယှဉ်အပ်သော လာဘ်သာဘရှိခြင်း၊ ကြီးမားသော တန်ခိုး အာနုဘော်ရှိခြင်း၊ တခဏချင်းထိုးထွင်း၍ သိမှုမ်နိုင်သောအသိ အလိမ္မာ ဉာဏ်ပညာရှိခြင်း၊ အမေးပုစ္ဆာပြဿနာတို့ကို လွယ်ကူစွာ ဖြေကြားနိုင်ခြင်း၊ အကျိုးအပြစ်ကိုခွဲနိုင်သည်ဖြစ်၍ များစွာသော ဘာသာစကားကို ပြောဆိုသောသူတို့၏ အရာမကသော အမေးပုစ္ဆာတို့ကို တခွန်းတည်းသောစကားဖြင့် ပြောကြား ဖြေဆိုနိုင်ခြင်း၊ ခြင်္သေ့မင်း၏မေးနှင့်တူသော မေးရှိခြင်း၊ မိမိစကား ကို နားထောင်လိုက်နာကြခြင်းတို့သည်ကား ဟုတ်မှန်သော အနက်ဖြစ်မှုကင်း၍ ပြိန်ဖျင်းသောစကားကိုပြောဆိုခြင်းမှ ရှောင်ကြဉ်ရခြင်း၏အကျိုးတို့တည်း။

၈ အဘိဇ္ဈာ။ ။အလိုရှိအပ်သောဥစ္စာဟူသမျှကို မရနိုင်ခြင်း၊ မြတ်သောစည်းစိမ်ချမ်းသာကိုကို ခံစားလိုသောစိတ်မရှိခြင်း၊ မင်းပုဏ္ဏားစသည်တို့၏ ကဲ့ရဲ့ရှုတ်ချသည်ကိုသာ ခံရတတ်ခြင်း၊ ရန်သူအပေါင်းတို့ တင်စားနှိပ်စက်သည်ကိုခံရခြင်း၊ မျက်စိစသောအင်္ဂါချို့တဲ့ခြင်းစသည်တို့ကား သူတပါး စည်းစိမ်ဥစ္စာကို ငါ့စည်းစိမ်ဥစ္စာဖြစ်ပါမူကား ကောင်းလေစွဟု ရှေးရှုကြံခြင်း၏ အပြစ်တို့တည်း။

၈ အနဘိဇ္ဈာ။ ။အလိုရှိသမျှ ရနိုင်ခြင်း၊ မွန်မြတ်သော စည်းစိမ်ချမ်းသာတို့ကို ခံစားလိုသောဆန္ဒရှိခြင်း၊ ရန်သူတပါး တို့ မိမိအားမနှိမ်နင်းနိုင်ခြင်း၊မျက်စိစသောအင်္ဂါနှင့်ပြည့်စုံခြင်း၊ သူတကာတို့နှင့်မတူခြင်းစသည်တို့ကား သူတပါး စည်းစိမ်ဥစ္စာ ကို ငါ့စည်းစိမ်ဥစ္စာဖြစ်ပါမူကား တော်လေစွဟု ရှေးရှုမကြံခြင်း ၏ အကျိုးတို့တည်း။

၉ ဗျာပါဒ။ ။သူတကာတို့ မနှစ်မြို့ခြင်း၊ လူတကာတို့ ကဲ့ရဲ့ရှုတ်ချသည်ကိုသာခံရတတ်ခြင်း၊ သူတကာတို့၏အကျိုးကို မသည်ပိုးလိုခြင်း၊ဘုန်းခိုးအာနုဘော်မရှိခြင်း၊မေတ္တာတရားနည်း ပါးခြင်း၊လွှသွားပမာ လွန်စွာကြမ်းကြုတ်ခြင်း၊စိတ်နှလုံးရှိတတ် ခြင်းစသည်တို့ကား သူတပါးတို့ပျက်ပြားသေကြေက တော်လေ စွဟု စိတ်ကကြံခြင်း၏အပြစ်တို့တည်း။

၉ အဗျာပါဒ။ ။ရဟန်းရှင်လူ ခပ်သိမ်းသူတို့ ကြည်ဖြူ လေးမြတ်ခြင်း၊ ချီးမွမ်းမြှောက်စားသည်ကို ခံရတတ်ခြင်း၊ သူ တပါးတို့၏အကျိုးကို သည်ပိုးရွက်ဆောင်လိုခြင်း။

သူတကာတို့လွန်စွာကြည်ညိုခြင်း၊သူတပါးတို့ကိုချမ်းသာစေ လိုသောစိတ်အမြဲရှိခြင်း၊ဘုန်းခိုးအာနုဘော်ကြီးမားခြင်း၊ နူးညံ့ သိမ်မွေ့သောသဘောရှိခြင်းစသည်တို့ကား သူတပါးတို့ ပျက် ပြားသေကြေက တော်လေစွဟုစိတ်ကမကြံစည်ခြင်း၏ အကျိုးတို့ တည်း။

၁၀ မိစ္ဆာဒိဋ္ဌိ။ ။ချစ်သားတို့ မှားယွင်းသော မိစ္ဆာ အယူသည် အပြစ်များသကဲ့သို့ အပြစ်များသော တရားတပါးကို ငါဘုရားမြင်တော်မမူဟု ဧကင်္ဂုတ္တရပါဠိတော်၌ ဟောတော် မူ ရကား မှားယွင်းသောမိစ္ဆာအယူသည် မည်မျှလောက် အပြစ်

များသည်ဟု မည်သူတစုံတယောက်မျှ ဟောကြားနိုင်ဘွယ် မရှိချေ။တနည်းကား မှန်ကန်သော သမ္မာဒိဋ္ဌိအကျိုး၏ ဆန့်ကျင်ဘက်ဖြစ်သော အပြစ်တို့သည် မှားသောမိစ္ဆာဒိဋ္ဌိအယူ၏အပြစ်တို့ဟူ၍ မှတ်အပ်၏။

၁၀ သမ္မာဒိဋ္ဌိ။ ။ဖြစ်လေရာရာဘဝတို့၌ အဆွေခင်ပွန်းကို ရခြင်း၊ဦးခေါင်းအဖြတ်ကိုခံရသော်လည်းမကောင်းမှုကိုမပြုလိုခြင်း၊ကံသာလျှင် ဥစ္စာရှိသည်ဟု မြင်ခြင်းကြောင့် ပြဿဒါးရက်ရာဇာခရွးခြင်းစသော ကောတုဟာလမင်္ဂလာကို မလိုက်စားခြင်း၊ သူတော်ကောင်းတရားတို့၌သာ အခါခပ်သိမ်း တည်တံ့ခြင်းစသည်တို့ကား မှန်ကန်သော သမ္မာဒိဋ္ဌိအယူကို ယူရခြင်း၏ အကျိုးတို့တည်း။

ဤကား ဆယ်ပါးသော ဒုစရိုက် သုစရိုက်တရားတို့၏ အပြစ်အကျိုးတို့တည်း။ဤဆယ်ပါးသော ဒုစရိုက်သုစရိုက်တို့၏ အပြစ်အကျိုးတို့ကို(ပါထေယျ ပါဠိတော် ရင်းအဋ္ဌကထာ ခုဒ္ဒကပါဠိအဋ္ဌကထာ စရိယပိဋကအဋ္ဌကထာ မေပဒပါဠိတော်)တို့၌ လာ၏။

၁၆ အဆွေအမျိုးတို့ကို ချီးမြှင့်ထောက်ပံ့ခြင်း ဆိုတာလဲ မင်္ဂလာတပါးဖြစ်ပါတယ်။

## ကာကဇာတ်တော်

(ဇာတကအဋ္ဌကထာမှ တိုက်ရိုက်ဘာသာပြန်ဆိုချက်)

လွန်လေပြီးသောအခါ ပာရာဏသီပြည်၌ ဗြဟ္မဒတ်မင်း အုပ်စိုးစဉ် ဘုရားအလောင်းသည် ကျီးမျိုး၌ဖြစ်လေ၏။ထိုအခါ တနေ့သ၌ ဘုရင်၏ပုရောဟိတ်ပုဏ္ဏားသည် မြို့ပြင်ဘက် မြစ်ထဲ၌ ရေချိုးပြီး လျှင် ပန်းနံ့သာ လိမ်းကျံ၍ မွှတ်သောအဝတ်

တန်ဆာများကို ဝတ်ဆင်ကာ မြို့တော်ထဲသို့ ပြန်ဝင်လာလေ၏။ ထိုအချိန်တွင် မြို့တော်တံခါးမှခ်၏ တံခါးတိုင်ဖျားဦ ကျီး ၂ ကောင်တို့သည် နားနေကြရာ တကောင်သောကျီးက အခြား တကောင်သောကျီးကို အဆွေကြည့်နေ၊ သည်ပုဏ္ဏားရဲ့အပေါ် ကို ငါမစင်ချလိုက်မည်ဟု ပြောလေ၏။

ဒုတိယကျီး။ ။အဆွေ သည်အလုပ်ကို သင်မနှစ်သက်လင့် သည်ပုဏ္ဏားဟာအစိုးရတဦးဖြစ်တယ်။အစိုးရနှင့်ရန်ဖြစ်တယ်ဆို တာမကောင်းဘူး၊ သည်ပုဏ္ဏားအမျက်ထွက်ရင် ကျီးတွေ အား လုံးပျက်စီးအောင်လုပ်လိုက်လိမ့်မယ်။ပထမ ကျီး-ငါတော့မလုပ် ဘဲမနေနိုင်ဘူး၊ ဒုတိယကျီး-သည်လိုဆိုလျှင် မကြာခင် သင်ရှား တော့မှာဘဲ၊ ဒုတိယကျီးသည် အထက်ပါအတိုင်းပြောဆိုပြီး ပျံ သွားပြေးလွှားလေ၏။ ပထမကျီး ကား မိမိ အောက် သို့ ပုရောဟိတ်ပုဏ္ဏားရောက်လာသည်နှင့် တပြိုင်နက် ပုဏ္ဏား၏ ဦးခေါင်းပေါ်ဦ မစင်ချလိုက်လေ၏။

ပုဏ္ဏားသည် ဒေါသဖြစ်ကာ ကျီးတို့အပေါ်ဦ ရန်ငြိုးထား လိုက်လေ၏။ဗာရာဏသီမြို့တော်ထဲဦပင် အခစား စပါးထောင်း သော ကျွန်မတယောက်သည် ကောက်များကို အိမ်တံခါးဝတွင် နေပူဦဖြန့်၍လှန်းကာ ထိုကောက်များကိုစောင့်ရှောက်ရင်း ထိုင် လျက်သား အိပ်ပျော်နေလေ၏။ ကျွန်မအိပ်ပျော်နေစဉ် အမွေး ရှည်ရှည်နှင့်သိုးတကောင်သည် လှန်းထားသော ကောက်များကို လာ၍စားနေလေရာ ကျွန်မအိပ်ရာမှနိုးပြီး သိုးကို ချောက်လှန့် လိုက်မှ သိုးပြေးသွားလေ၏။

ကျွန်မသည်ပြန်၍အိပ်ပြန်ရာ သိုးသည်လည်း လာ၍ စားပြန် လေ၏။ကျွန်မသည်လည်း အိပ်ရာမှနိုးကာ ချောက်ရပြန်လေ၏။

သိုးသည်လည်း ပြေးသွားပြန်လေ၏။ ဤနည်းဖြင့် သုံးကြိမ်တိုင်တိုင်ချောက်လှန့်ရပြီးနောက် ကျွန်မသည် မီးစကိုကိုင်၍ အိပ်ချင်ယောင်ဆောင်နေရာ သိုးလည်း လာမြဲလာ၍စား၏။ ကျွန်မသည် မီးစနှင့်သိုးကိုလိုက်၍ရိုက်လေရာ သိုး၏အမွေးတို့ကိုမီးစွဲလောင်မြိုက်လေ၏။

သိုးသည် ကိုယ်ကိုမီးလောင်သဖြင့် မခံမရပ်နိုင်ဖြစ်ကာ တဟုန်ထည်းပြေးလွှား၍ ဆင်တင်းကုပ်အနီးရှိ တခုသော မြက်တင်းကုပ်၌ မီးငြိမ်းရန်ကိုယ်ကိုပွတ်တိုက်နေလေ၏။ မြက်တင်းကုပ်ကိုမီးစွဲလောင်မြိုက်လေ၏။ မြက်တင်းကုပ်မှ ထသော မီးလျှံသည် ဆင်တင်းကုပ်ကိုစွဲ၍ ဆင်တင်းကုပ်ကိုလောင်ပြန်ရာ ဆင်တင်းကုပ်ထဲရှိ ဆင်တို့သည် ကျောက်ကုန်း (ကျောကုန်း)တို့ကို မီးစွဲလောင်မြိုက်လေ၏။ မီးသည်လည်းထိုအချိန်မှစ၍ ငြိမ်းသွားလေ၏။ ဆင်များစွာတို့မှာ ကျောက်ကုန်း (ကျောကုန်း) တို့၌ မီးလောင်ဖုများ ထလာကြလေ၏။

ဆင်ဒေးဆရာ ဆင်သမားတော်တို့သည် ထိုမီးလောင်ဖုများကိုပျောက်အောင် မကုသနိုင်သဖြင့် ဘုရင်မင်းမြတ်ထံ ရှေ့နားတော်ကြားလျှောက်ထားကြရလေ၏။ ဘုရင်မင်းမြတ်သည်-

ပုရောဟိတ်ပုဏ္ဏားအား ထိုအကြောင်းအမိန့်ရှိကာ-

ဆရာကောဆင်တွေ့အတွက် ဆေးဝါးများ မသိဘူးလားဟု မေးတော်မူလိုက်ရာ၊ မှန်လှပါ သိပါကြောင်းပါဟုလျှောက်ထားလေ၏။

(ဘုရင်) သိရင် သံတော်ဦးတင်စမ်းပါ၊ ဆေးဝါးအတွက် ဘာများအလိုရှိသလဲ၊ လိုတာကိုပြောပါဆရာ-

(ပုရောဟိတ်) ကျီးဆီ (ကျီး၏အဆီ)ကိုရလျှင် ပျောက်အောင်ကုနိုင်ပါကြောင်းပါ။

(ဘုရင်) သည့်လိုဆိုလျှင် ကျီးတွေကို သတ်ပြီး အဆီကို ထုတ်ယူဘို့ အမိန့်တော်ပြန်လိုက်။

အထက်ပါ ဘုရင်မင်းမြတ် အမိန့်တော်အရ အိုင်ရာမင်းမှုထမ်းများသည် ကျီးများကိုဖမ်းယူသတ်ဖြတ်ကာ အဆီကို ရှာဖွေထုတ်ယူကြရာ အဆီကိုမတွေ့ရသဖြင့် တကောင်ပြီး တကောင် ရာပေါင်းများစွာ ထောင်ပေါင်းများစွာ ကျီးများကို သတ်ဖြတ်ပြီး အသေကောင်များကိုစုပုံထားကြလေ၏။ အဆီကိုကား မတွေ့ကြရချေ။ ကျီးတို့အတွက် ကပ်ဆိုက်သကဲ့သို့ ဖြစ်လာလေ၏။ ထိုအချိန်တွင် ဘုရားအလောင်း ကျီးမင်းသည် ကျီးပေါင်း ၈၀၀၀၀ အခြံအရံနှင့် ဗာရာဏသီမြို့တော်၏ သင်္ချိုင်းတောကြီး၌ နေထိုင်လေ၏။ ကျီးတကောင်သည် ဘုရားအလောင်း ကျီးမင်းထံ ဝင်ရောက်ခစား၍ အထက်ပါ အကြောင်းများကို ပြောကြားလာလေ၏။ ဘုရားအလောင်း ကျီးမင်းသည် ငါမှတပါးသောသူသည် ကျီးဘေးရန်ကို ငြိမ်းသတ်ရန် စွမ်းနိုင်သူမရှိ။ ငါ၏အမျိုးသား ကျီးများအတွက် ငါကိုယ်တိုင် ဆောင်ရွက်မှဖြစ်တော့မည်ဟုကြံစည်ကာ ပါရမီဆယ်ပါးကိုဆင်ခြင်[illegible] ပါရမီကို ရှေ့သွားပြုလျက် ဘုရင်မင်းမြတ်၏ နန်းတော်သို့ တဟုန်ထိုးပျံသန်းလာခဲ့လေ၏၊ ဘုရားလောင်း ကျီးမင်းသည် ဘုရင်မင်းမြတ်စံမြန်းရာ နန်းတော်ဆောင်သို့ရောက်သောအခါ ဖွင့်ထား၍ပွင့်နေသော လေသွန်တံခါးဝမှဝင်၍ ဘုရင်မင်းမြတ်စံတော်မူရာ သလွန်တော်အောက်သို့ဝင်ပြီး ခိုအောင်းနေလေ၏။ ထိုအခါ အနီးရှိ မင်းခစား လုလင်တယောက်သည် ဘုရား

လောင်း ကျီးမင်း ကို ဘမ်း ရန် စီ မံ လေရာ ဘုရင်မင်းမြတ်က ကိုးကွယ်ရာမရှိလို့ ကိုးကွယ်ရာလုပ်ပြီး ဝင်လာတာ မဘမ်းပါ နှင့်ဟု တားမြစ်ထားလေ၏။ ဘုရားလောင်း ကျီးမင်းလည်း အတန်ငယ်အပုန်းဖြေ၍ မေဏ္ဍာပါရမီကိုဆင်ခြင်ပြီးသလွန်တော် အောက်မှထွက်လာကာ အရှင်မင်းမြတ် ဘုရင်တို့မည်သည်ဆန္ဒ ဂတိစသည်မလားဘဲ အုပ်စိုးရန်သင့်ပါသည်။မည်သည့်အမှုမဆို စုံစမ်းဆင်ခြင်၍ ပြုသင့်ပါသည်။ သည့်လိုပြုတဲ့ အခါမှာလည်း ဖြစ်မြောက်နိုင်မဲ့ကိစ္စ ပြီးစီးနိုင်မဲ့ကိစ္စမျိုးသာ ပြုတော်မူသင့်ပါ သည်။မဖြစ်မြောက်နိုင် မပြီးစီးနိုင်မဲ့ကိစ္စများကိုပြုတော်မူပါက များစွာသော သတ္တဝါ များ အတွက် သေဘေး အဆုံးရှိသော ကြီးစွာသောဘေးကြီး ဆိုက်ရောက် တတ်ပါသည်။ ပုရောဟိတ် ဟာ ကျီးတို့အပေါ်မှာရန်ငြိုးဖွဲ့ပြီး မဟုတ်မမှန် အကြံပေးခြင်း ဖြစ်ပါသည်။ ကျီးတို့မည်သည် အဆီမရှိပါဟု လျှောက်ထား လိုက်လေ၏။

ဘုရင်မင်းမြတ်သည် ဘုရားလောင်း ကျီးမင်း၏ လျှောက် ထား ချက် ကို ကြား ရ သ ဖြင့် ကြည် ညို စိတ် ဖြစ် ပေါ် လာကာ ကျီးမင်းအား ကောင်းမွန်သော ရွှေအင်ပျဉ်ပေါ်၌ နေစေလျက် ဘုရားလောင်း၏ အတောင် ကြားတို့ကို အကြိမ်တရာ အကြိမ် တထောင် [illegible]သောဆီတို့ဖြင့်လိမ်း၍ ရွှေခွက်ငယ်နှင့် မင်းတို့ အား သာ [illegible] ကန် သော ကောင်း မွန် သည့် ဘော ဇဉ် တို့ ကို ကျွေးမွေးလေ၏။ ဘုရားလောင်း ကျီးမင်းလည်း ဘေးကင်း ရန်ကင်းနှင့် ကောင်းမွန်သော ထမင်းဟင်းတို့ကို စားသောက် လေ၏။ ဘုရားလောင်း ကျီးမင်းအစာရေစာ စားသောက်ပြီး သောအခါ ဘုရင်မင်းမြတ်က-

ပညာရှိသင်သည့် ကျောင်းတိုင်၌အဆီမည်သည်မရှိဟု ပြောသွားတယ်။ ဘယ်အကြောင်းကြောင့် ကျောင်းတို့မှာ အဆီမရှိတာလဲဟု မေးမြန်းတော်မူလေ၏။

ဘုရားလောင်း ကျောင်းမင်းသည် ဘုရင်မင်းမြတ်၏ အမေးကို ဤ အကြောင်း ဤ အကြောင်း များကြောင့် အဆီမရှိဟူ၍ နန်းတော်တခုလုံး တစပ်ထည်းသော အသံရှိသည်ကိုပြုလျက်-

အရှင်မင်းမြတ်ကျောင်းတို့မည်သည် အမြဲတမ်း ထိတ်လန့် တုန်လှုပ်သော စိတ်နှလုံးရှိကြပါသည်၊ ၎င်းပြင်ကျောင်းတို့သည် အလုံးစုံသောလူများကို ညှဉ်းဆဲတတ်ကြပါသည်။မင်းဆွေစိုးမျိုး ပုဏ္ဏားမျိုးစသည်မကျန် ယောက်ျား မိန်းမ အပျို လူပျို ကလေး လူငယ်အရွယ်အစားစား လူအများကို ညှဉ်းဆဲကာ ပင်ပန်းအောင် ပြုတတ်ကြပါသည်။ ဤဆိုခဲ့ပြီးသော အကြောင်း ၂ ချက်ကြောင့် ကျွန်တော်တို့အမျိုးသားကျောင်းများမှာ အဆီမရှိခြင်းဖြစ်ပါသည်။ လွန်လေပြီးသောအခါကလည်း ကျောင်းများမှာအဆီမရှိခဲ့ဘူးပါ။ လာလတံ့သောအနာဂတ်ကာလ၌လည်း ကျောင်းများတွင်အဆီရှိလိမ့်မည်မဟုတ်ပါ။သို့အတွက် အရှင်မင်းမြတ်သည်အမှုကိစ္စများကို မစူးစမ်းမဆင်ခြင်ဘဲ ပြုတော်မမူသင့်ကြောင်း လျှောက်ထားလိုပါတယ်ဟု အကျယ်တဝင့် တရားဟောသကဲ့သို့ ဟောပြလေ၏။ဘုရင်မင်းမြတ်လည်း နှစ်သက်တော်မူလှ၍ ဘုရားလောင်းကျောင်းမင်းအား ထီးနန်းစည်းစိမ်ဖြင့် ပူဇော်လေရာ ဘုရားလောင်း ကျောင်းမင်းလည်း ထီးနန်းစည်းစိမ်ကို ဘုရင်မင်းမြတ်အား ပြန်လည်အပ်နှင်း၍ ရှင်ဘုရင်ကို ငါးပါးသီလ၌ တည်စေလျက် အလုံးစုံသောသတ္တဝါတို့အားဘေးမဲ့ပေးရန်တောင်းဆိုလေ၏။ဘုရင်မင်းမြတ်လည်း ဘုရားလောင်းကျောင်းမင်း၏ တရား

တော်ဒေသနာကို ကြားနာရ၍ အလုံးစုံသော သတ္တဝါတို့အား ဘေးမဲ့ပေးလျက် ကျွဲနွားတို့အားမူ အမြဲတမ်း အလှူဝတ်လုပ်ကာ နေ့တိုင်းနေ့တိုင်းတဆယ့်တစိတ်သောဆန်ကိုချက်ပြီး အထူးထူး အပြားပြား မြတ်သောအရသာရှိသည့်ဟင်းတို့ဖြင့် နယ်၍ ကျွေးမွေးလေ၏။ဘုရားလောင်းကျွဲမင်းအတွက်ကား ဘုရင်မင်းမြတ်တို့အားသာထိုက်တန်သော ဘောဇဉ်မျိုးကိုပေးကမ်းကျွေးမွေးခဲ့လေ၏။

၁၇ ဥပုသ်စောင့်ခြင်း၊ရေတွင်းရေကန်တူးခြင်းစတဲ့ အပြစ်မရှိတဲ့ အမှုအလုပ်တွေကိုပြုလုပ်ခြင်းဟာလဲ မင်္ဂလာတပါးဖြစ်ပါတယ်။

၁၈ မကောင်းမှုမှ စိတ်ဖြင့်ဝေးစွာရှောင်ကြဉ်ခြင်း၊

၁၉ မကောင်းမှုမှ ကိုယ်နှုတ်တို့ဖြင့်ဝေးစွာရှောင်ကြဉ်ခြင်း၊

၂၀ ဘိန်းဘင်းကဇော် လှော်ဇာအရက် မူးရစ်စေတတ်တဲ့ သေရည်သေရက်ကို သောက်ခြင်းမှ ရှောင်ကြဉ်ခြင်း ဆိုတာတွေဟာလဲ မင်္ဂလာတရားတွေဖြစ်ပါတယ်။

၂၁ ကုသိုလ်ကောင်းမှုတို့၌ မမေ့ မလျော့ခြင်း ဟာလဲ မင်္ဂလာတပါးဖြစ်ပါတယ်။

အပ္ပမာဒဆိုတဲ့မမေ့မလျော့တဲ့တရားဟာသံသရာဝဋ်ဆင်းရဲက လွတ်မြောက်ရေးအတွက် ဘယ်လောက်အရေးကြီးတယ်ဆိုတာကို ထင်ရှားစေချင်တဲ့အတွက် မဟာဝဂ္ဂသံယုတ် ပါဠိတော်ထဲမှာ မြတ်စွာဘုရားဟောကြားထားတော်မူခဲ့တာကို ဖော်ပြလိုပါတယ်၊

အကြင်သို့ သဘောရှိကုန်သော အခြေမရှိသော သတ္တဝါ၊ အခြေနှစ်ချောင်းရှိသောသတ္တဝါ၊ အခြေလေးချောင်းရှိသော

သတ္တဝါ၊ အခြေများစွာရှိသော သတ္တဝါအစရှိသော အားဖြင့်များစွာသောသတ္တဝါတို့သည် ရှိကြကုန်၏။ ထိုသတ္တဝါအပေါင်းတို့တွင် လူ နတ် တို့ ဆ ရာ ဖြစ် တော် မူ သော မြတ်စွာ ဘုရားကို အမြတ်ဆုံးဟု ဆိုရသကဲ့သို့ငှင်း၊ ကုန်း၌ ကျက် စား ကုန် သော သတ္တဝါ၏ခြေရာပေါင်းတို့တွင် ဆင်ခြေရာသည်အကြီးဆုံး ဖြစ်သကဲ့သို့ငှင်း၊ အမြစ်နံ့ သာမျိုးတို့တွင်အကျော်အနက်၊အနှစ် နံ့သာမျိုးတို့တွင် စန္ဒကူးနီ၊အပွင့်နံ့ သာမျိုးတို့တွင် မိုးစွေပွင့်သည် အကောင်းဆုံး အမြတ်ဆုံးဖြစ်သကဲ့သို့ငှင်း၊ ညကိုထွက်သော နက္ခတ်တာရာ ကြယ်တကာတို့တွင် လမင်း၏ အရောင်သည် အလင်းဆုံး ဖြစ်သကဲ့သို့ငှင်း၊ အလုံးစုံ ရှိရှိသမျှသော ကုသိုလ်တရားတို့သည် အပ္ပမာဒ တရားသာလျှင် အရင်း အမြစ် ဖြစ်၍ အပ္ပမာဒတရားသည်သာလျှင် အကြီးဆုံးအမြတ်ဆုံးဖြစ်၏။

မမေ့မလျော့တဲ့တရားမှာ ရဟန်းတွေလိုက်နာဘို့ အပ္ပမာဒတရားက တမျိုး၊ လူတွေလိုက်နာဘို့ အပ္ပမာဒတရားကတမျိုးဆိုပြီး အပ္ပမာဒတရားနှစ်မျိုးရှိပါသေးတယ်။ အဲဒါကြောင့် လူတွေလိုက်နာဘို့ အပ္ပမာဒတရားကို ဖော်ပြလိုပါသည်။

## လူ့အပ္ပမာဒ

လူတို့မှာလည်း ညအိပ်ရာဝင်လျှင် ဘုရားပုထိုးရှိခိုးဝတ်တက်ခြင်း၊ ပရိတ်မေတ္တာပို့ခြင်း၊ နံနက်စောစောထ၍ ဘုရားပုထိုး ရှိခိုးဝတ်တက်ခြင်း၊ ဆွမ်းတော်ချက်ခြင်း၊ ဆွမ်းတော်တင်ခြင်း၊ သံဃာတော်တို့အား ဆွမ်းလောင်းခြင်း၊ သီလရှင် သူတော်စင်သည်တို့ အလှူခံလာသောအခါ ဆွမ်းဆန် မုန့်ဆီ စ သည် တို့ကို တဆုပ်တပြားမျှဖြစ်စေ ပေးလှူခြင်း၊ ၅ ပါးသီလကို ခါးဝတ်ပုဆိုးကဲ့သို့မြဲစေခြင်း၊ ရဟန်းကျောင်းသို့ မကြာ မကြာအဖူးအမြော် ရောက်

ခြင်း၊ ရှစ်ရက် လပြည့် လကွယ်တိုင်း ဥပုသ်သီတင်းစောင့်သုံးခြင်း ဆရာမိဘစသော သူတို့၌ ပြုရမည့်ဝတ်ကို မချွတ်အောင် ပြုခြင်း၊ စွမ်းနိုင်သောအခါ အလှူဒါနတို့ကိုပြုခြင်း၊ ရံခါ ရံခါ ရုပ်နာမ် ခန္ဓာတို့၏အဖြစ်အပျက်တို့ကိုထင်မြင်အောင်ရှုခြင်း စသောအားဖြင့် ကုသိုလ်တရားတို့၌ မမေ့ မလျော့အားထုတ်ခြင်းသည် (အပ္ပမာဒ)မည်၏။

မမေ့မလျော့ခြင်းရဲ့အကျိုးကို လူကြီးမင်းများ သိစေလိုတဲ့အတွက် သဂါထာဝဂ္ဂသံယုတ် ပါဠိတော်မှာ မြတ်စွာဘုရား သခင်ဟောကြားထားတော်မူခဲ့တာကို ကျွန်တော် ဖေါ်ပြလိုပါတယ်။

## သဂါထာဝဂ္ဂသံယုတ်ပါဠိတော်

သတိမတော၊ မေ့လျော့ခြင်းမရှိ သတိနှင့်ပြည့်စုံသောသူအား သဒါ၊ အခါခပ်သိမ်း။ ဘဒ္ဒံ၊ ကောင်းမြတ်ခြင်းသည်။ ဟောတိ၊ ဖြစ်၏။ သတိမာ၊ မေ့လျော့ခြင်းမရှိ။ သတိနှင့်ပြည့်စုံသောသူသည် သုခံ။ ချမ်းချမ်းသာသာ။ ဧဓတိ၊ ကြီးပွားနိုင်၏။ သတိမတော၊ မေ့လျော့ခြင်းမရှိ။ သတိနှင့်ပြည့်စုံသောသူအား။ သုဝေ၊ နေ့ဆက်ရက်ဆက် နံနက်မိုးလင်းတိုင်း။ သေယျော၊ မြတ်သည်ထက်မြတ်ခြင်းသည်။ ဟောတိ၊ ဖြစ်၏။ ဝေရာ။ ရန်သူမျိုးငါးပါးမှလည်း၊ ပရိမုစ္စတိ၊ လွတ်မြောက်ရ၏။

၂၂ ရှိသေယိုက်တဲ့သူတို့ကိုရိုသေခြင်း၊ ၂၃ မာန်မာနကိုနှိမ့်ချခြင်း၊ ၂၄ ရသာမျှဖြင့် ရောင့်ရဲလွယ်ခြင်း ဆိုတာတွေဟာလဲ မင်္ဂလာတရားတော်တွေဘဲဖြစ်တယ်။

အလောင်းတော် ဘေမိမင်းဖြစ်စဉ်အခါက ကံပြင်းရွက်ကို သာစားနေပါတယ်။ အဲဒီအရွက်ကိုသာစားနေပေတဲ့ နန်းတော်

ထဲမှာအဆီအသားတွေကို စားနေတဲ့ နန်းတော်သူ နန်းတော်သားတွေထက် တေမိမင်းသားကပိုပြီး အဆင်း လှပ နေတယ်။ အဲဒီတော့ခမည်းတော်ရှင်ဘုရင်ကြီးက ချစ်သားဘာဖြစ်မဟုတ်တဲ့ ကံပြင်းရွက်ပြုတ်ကိုသာစားနေပေမဲ့ ချစ်သားရဲ့ အဆင်းဟာ လှပတင့်တယ်နေတာ ဘာကြောင့်ပါလဲလို့ မေးပါတယ်။ အဲဒီအခါ တေမိမင်းသားက ခမည်းတော်- သား တော် မောင် ဟာ အနာဂတ်မှာပေါ်ပေါက်လာမဲ့ လာဘ်ကိုလည်း တောင့်တ မြှော် လင့် ခြင်း မ ရှိ။ လွန်ပြီးကဲ့လာဘ်အတွက်လည်း မစိုးရိမ်မကြောင့်ကြ။ ယခုပစ္စုပ္ပန်ကာလမှာ ရသမျှနဲ့ဘဲ ရောင့်ရဲပါတယ်လို့ ပြန်ပြီး သံတော်ဦးတင်တယ်။

၂၅ သူပြုဘူးသောကျေးဇူးကို သိခြင်းဟာလည်း မင်္ဂလာတပါးဖြစ်ပါတယ်။

အင်္ဂုတ္တရနိကာယ်ပါဠိတော်မှာ-

၁ သူတပါး၏ကျေးဇူးကို မသိတတ်သော ပုဂ္ဂိုလ်မျိုးဟာ အသပ္ပုရိသ၊(ဝါ)လူယုတ်မာမည်၏။

၂ သူတပါး၏ကျေးဇူးကို သိတတ်သော ပုဂ္ဂိုလ် မျိုးဟာ သပ္ပုရိသ(ဝါ)သူတော်ကောင်းမည်၏လို့ မြတ်စွာဘုရားသခင် ဟောကြားထားတော်မူခဲ့ပါတယ်။

ဒီဒေသနာတော်အရ ပုဂ္ဂိုလ်တဦးရဲ့ သဏ္ဍာန်မှာ အခြားမကောင်းတဲ့တရားတွေ မည်မျှကိန်းဝပ်နေပေမဲ့ ကတညူ၊ ကတဝေဒီဆိုတဲ့ သူတပါးရဲ့ကျေးဇူးကိုသိတတ်တဲ့ တရား ရှိနေရင်၊ ဒီပုဂ္ဂိုလ်မျိုးကိုလဲ သပ္ပုရိသ(ဝါ)သူတော်ကောင်းလို့ဘဲ ခေါ်ဆိုနိုင်ပါတယ်။

ဒီကတည်းကတာဝေဒီတရားရှိတဲ့ပုဂ္ဂိုလ်မျိုးဟာ ဒုလ္လဘဖြစ်ကြောင်းကို-

၁ မြတ်စွာဘုရားပွင့်တော်မူခြင်းကို ရခဲလှ၏။

၂ မြတ်စွာဘုရား ဟောကြားထားသောတရားတော်များကို ဟောပြပေးမည့် ပုဂ္ဂိုလ်မျိုးကို ရခဲလှ၏။

၃ သူတပါး၏ကျေးဇူးကိုသိတတ်သောပုဂ္ဂိုလ်မျိုးကို ရခဲလှ၏လို့ အင်္ဂုတ္တရနိကာယ်ပါဠိတော်ထဲမှာ မြတ်စွာဘုရား ဟောကြားထားခဲ့တဲ့ ဒေသနာတော်အရ ကောင်းကောင်းကြီး သိနိုင်ကြပါတယ်။

ကျေးဇူးရှင်ကိုပြစ်မှားလို့ ဒုက္ခတွေ့ခဲ့ရတဲ့ သာဓက တခုကို ကျွန်တော်ထုတ်ပြပါရစေ။

ကျေးဇူးရှင်ကိုပြစ်မှား၍ ဒုက္ခတွေ့ရသော မင်းသားဝတ္ထု။

## သစ္စံကိရဇာတ်

(ဇာတကအဋ္ဌကထာမှ တိုက်ရိုက်ဘာသာပြန်ဆိုချက်။)

လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်း အုပ်စိုးစဉ် ဗြဟ္မဒတ်မင်း၏ သားတော် ဒုဋ္ဌကုမာရ မည်သော မင်းသား တပါး ရှိ၏။ ၎င်းသည် ရန့်ရင်းကြမ်းကြုတ်၏။ မြွေဟောက်ကဲ့သို့ဒေါသကြီး၏။ သူတပါးကို မဆဲရေးဘဲ၊ မပုတ်ခတ်ဘဲ၊ စကားပြော၍မဖြစ်။ လူအများသည် ၎င်းအား လူသားစားရန်လာသော ဘီလူးကဲ့သို့ ထင်မှတ်ကြ၏။ ထိတ်လန့်ကြ၏။ တနေ့သ၌ ထိုမင်းသားသည် မြစ်ရေချိုးခြင်းငှါ (ရေကစားခြင်းငှါ) အခြွေအရံများနှင့် မြစ်ကမ်းနားသို့ ထွက်ခဲ့လေ၏။ ထိုခဏ၌ မိုးမှောင်ကျကာ မိုးကြီး သည်းထန်စွာ ရွာသွန်း

လာ၏။မင်းသားသည် မိမိ၏လက်ပါးစေ ကျေးကျွန်အပေါင်းတို့အား-

ငါ့ကို မြစ်လယ်ခေါင်ဆောင်ယူပြီး ရေချိုး ပေးကြ စမ်းဟု ခိုင်း၍ လက်ပါးစေ ကျေးကျွန်အပေါင်းတို့လည်း မင်းသားကို မြစ်လယ်ခေါင်သို့ဆောင်ယူကြပြီးလျှင် အချင်းချင်း တိုင်ပင်ကာ သည် လူ ယုတ် မာ ကို မြစ် လယ် ခေါင် မှာ သေ စေ အံ့ ဟု ကြံ ၍ မင်းသားကို ရေစီးထဲ၌မျှောချလိုက်ကြလေ၏။ လက်ပါးစေတို့သည် မင်းသားကို ရေစီးထဲ၌ မျှောချလိုက်ပြီးနောက် မိမိတို့မူကား ကမ်းသို့ပြန်လာခဲ့ကြလျက် ကမ်းပါးပေါ်မှ ကြည့်နေကြကုန်၏၊ အခြားသူတို့က မင်း သား ဘယ် မှာ လဲ ဟု မေးကြရာ မင်းသားကို ငါတို့မမြင်ကြပါ၊ မိုးသည်းတွေ တက်လာတာမြင်လို့ ရေထဲငုပ်ပြီး ကမ်းစပ်ကို အလျင် သွားနှင့်တယ်ထင်တာပါဘဲဟု ပြောဆိုကြကုန်၏၊ ဤအ ကြောင်း ကို မှူး မတ် များ က ဘုရင်မင်းမြတ်ထံ သံတော်ဦးတင်ကြ၍ ဘုရင်မင်းမြတ် အမိန့်တော်နှင့် မင်းသားကို ရှာဖွေကြသော်လည်း မတွေ့ကြရတော့ချေ။ ဒုဋ္ဌကုမာရမင်းသားလည်း မိုးသည်းမှောင်ကြီးကျနေစဉ် ရေစီးထဲ၌ မျှောပါရင်း ထင်းတုံးကြီးတခုကိုတွေ့၍ ထိုထင်းတုံးကြီးကို စီးကာ သေရမည့်ဘေးမှကြောက်လန့်သဖြင့် ကယ်ကြပါ ယူကြပါ တစာစာနှင့် ဟစ်အော်ငိုကြွေးရင်းလိုက်ပါသွားလေ၏။ မကြာမီ မြွေတကောင်နှင့် ကြွက်တကောင်လည်း ရေစီးထဲတွင် မျှောပါလာပြီး မင်းသားစီးလာသောထင်းတုံးနှင့်တွေ့၍ ထင်းတုံးကြီး၏ ထောင့်စွန်းတခုတွင် မြွေကတွယ်၍ အခြားထောင့်စွန်း တခုတွင် ကြွက်ကတွယ်ပြီး ကပ်မြောင် လိုက်ပါ လာကြလေ၏။ မကြာမီ ကျေးသားတကောင်လည်းရေပေါ်၌ပျံသန်းနေရင်းက မိုးသည်းရွာသဖြင့် မပျံသန်းနိုင်တော့ဘဲ မင်းသားစီးလာသော ထင်းတုံး

ပေါ်သို့တက်ရောက်လာကာ ထင်းတုံး၏ တခုသောနံပါး ဘေးဘက်၌ ပုရွက်ဆိတ်ပါလာလေ၏။ ဤသို့အားဖြင့်ထင်းတုံးကြီးတခုထည်း၌ သတ္တဝါ၄ဦးတို့ အတူစီးကာမျောပါလာကြလေ၏။

## မြွေ၊ ကြွက်၊ ကျေးသားတို့၏အတ္တုပ္ပတ္တိ
## မြွေ၏အကြောင်း

မာရာဏာ သီပြည်မှ သူဌေးကြီးတဦးသည် မြစ်ကမ်းနားဌကုဋေ၄၀သောဥစ္စာများကိုမြှုပ်နှံထားရာ သေသောအခါ ဥစ္စာလောဘဇောတပ်မက်၍ ဥစ္စာမြှုပ်နှံထားရာအရပ်၌ မြွေဖြစ်နေလေ၏။ထိုမြွေသည် မိုးကြီးသည်းထန်စွာရွာချစဉ်၊မိမိနေရာသို့ရေများဝင်လာ၍မနေနိုင်သဖြင့် ထွက်လာရင်း ရေစီးထဲ၌မျော၍ပါလာခြင်းဖြစ်ပေ၏။

## ကြွက်အကြောင်း

မာရာဏာသီပြည်မှသူဌေးတဦးသည် မြစ်ကမ်းနားဌကုဋေ၃၀သော ဥစ္စာများကိုမြှုပ်နှံထားရာ သေသောအခါ ဥစ္စာလောဘဇောတပ်မက်၍ ဥစ္စာမြှုပ်နှံရာအရပ်၌ ကြွက်ဖြစ်နေလေ၏။ ထိုကြွက်သည် မိုးသည်းထန်စွာရွာချစဉ် မိမိနေရာသို့ရေများဝင်လာ၍ မနေနိုင်သဖြင့် ထွက်လာရင်း ရေစီးထဲ၌ မျောပါလာခြင်းဖြစ်ပေ၏။

## ကျေးသား၏ အကြောင်း

ကျေးသားကား အထက်ပါ မြွေနှင့် ကြွက်ကဲ့သို့လူဝင်စားမဟုတ်ပေ၊ရိုးရိုးတိရစ္ဆာန်ဖြင်ဖြစ်၏၊မြစ်ကမ်းနားရှိလက်ပံပင် တပင်၌နေ၏၊မိုးကြီးသည်းထန်စွာရွာ၍ ရေတက်ပြီး လက်ပံပင်၏အမြစ်ကို ရေတိုက်စားသွားရာ လက်ပံပင်သည်မြစ်ထဲသို့ လဲ

ကျသွားလေ၏။ကျေးသားသည် လက်ပံပင် မြစ်ထဲလဲကျသွား၍ ဆောက်တည်ရာမရှိတော့သဖြင့် ကောင်းကင်သို့ ပျံ သန်း ရာ မိုးသည်းသည်းထန်နေ၍ မပျံနိုင်တော့ဘဲ အခန့်သင့်စွာ မျောလာ သော အထက်ပါထင်းတုံးပေါ်သို့ ရောက်လာခြင်းဖြစ်ပေ၏။

## ဘုရားလောင်းရသေ့

ဂေါတမမြတ်စွာဘုရား၏အလောင်းသည် ထိုအခါ၌ ကာသိ တိုင်းတွင် ဥဒိစ္စပုဏ္ဏားမျိုး၌ဖြစ်၍ အရွယ် ရောက်သောအခါ ရသေ့ပြုလုပ်ပြီး အထက်ပါမြစ်၏တခုသော မြစ်ကွေ့တွင် သစ် ရွက်မိုးသောကျောင်းနှင့်နေထိုင်လျက်ရှိလေ၏။ အချိန်ကား ည သန်းခေါင်ဖြစ်၏၊ဘုရားလောင်းရသေ့သည်သန်းခေါင် အချိန်၌ စင်္ကြံသလားနေရာမြစ်ထဲမှ မင်းသား၏ ဟစ်အော် ငိုကြွေးသံကို ကြားရ၍ ငါကဲ့သို့ မေတ္တာကရုဏာနှင့်ပြည့်စုံသော ရသေ့မြင် တွေ့နေရပါလျက် ဤဖယောက်ျား၏သေခြင်းသည်မသင့်၊ ရေထဲမှ ဆယ်တင်၍ ဤယောကျ်ားအား ဇီဝိတဒါန ပြုအံ့ဟု ကြံစည် ကာ ရေအယဉ်ကိုဖြတ်ကူး၍ ထင်းတုံး၏တခုသော မထောင့်စွန်း ကို ဆွဲယူလျက် ဆင်ပြောင်အားကဲ့သို့သော ခွန်အားဗလမျိုးဖြင့် ကမ်းစပ်သို့ တဟုန်ထည်း ကူးလာခဲ့လေ၏၊ ရောက်သောအခါ မင်းသားကို ပွေ့ချီယူငင်၍ ကမ်းစပ်ပေါ်သို့တင်ထား၏။ ထိုနောက် မြွေ၊ ကြွက်၊ ကျေးသားတို့ကိုလည်း တွေ့ရှိရသဖြင့် ကမ်းပေါ်သို့တင်ကာ ၄ ဦးလုံးကို မိမိကျောင်းသို့ ယူဆောင်ပြီး အအေးမမိစေရန် မီးမိုပြီးလှုံစေ၏။ ထိုသို့မီးလှုံစေရာ မင်းသား ထက် မြွေ ကြွက် ကျေးသားတို့မှာ ပိုမိုအားနည်းနေသည်ကို တွေ့ မြင်ရသဖြင့် ၎င်းတို့ ၃ဦးအား ပထမဆုံးမီးလှုံပေးပြီးမှ မင်းသား ကိုနောက်မှ မီးလှုံပေးလေ၏။ရှင်ရသေ့သည် ၄ဦးလုံးကို မီးလှုံ

စေပြီးနောက် အစာအာဟာရများကျွေးမွေးလေရာ ထိုသို့ကျွေးမွေးသောအခါ၌လည်း ပိုမိုအင်အားနည်းနေသော မြွေကြွက်ကျေးသားတို့အား ပထမဆုံးကျွေးမွေး၍ နောက်မှ မင်းသားကို သစ်သီးကြီးငယ်တို့ဖြင့် ကျွေးမွေးလေ၏။ မင်းသားသည် ဤကဲ့သို့ မိမိအား နောက်ထား၍ပြုမူသည်ကို မကျေနပ်ဖြစ်ကာ—

သည်ရသေ့စဉ်းလဲဟာ ငါကဲ့သို့မင်းသားကို အရေအတွက်ရင်းမသွင်းဘဲ တိရစ္ဆာန်တွေကိုသာ ဦးစားပေးပြီး မြှတ်နိုးတနာပြုစုတယ်ဟု နှလုံးသွင်းလျက် ဘုရားလောင်း ရသေ့အပေါ်၌ ရန်ငြိုးဖွဲ့ထားလိုက်လေ၏။ ထိုနေ့မှ ၂ ရက် ၃ ရက်လွန်မြောက်သောအခါ ဘုရားလောင်းရသေ့၏ပြုစုချက်ကြောင့် ၄ ဦးလုံး အားခွန်ဗလနှင့် ပြည့်စုံကာ ပကတိ ဖြစ်လာကြလေ၏။ မိုးကြီးသည်းထန်စွာ ရွာသွန်းမှုအတွက် ဖာက်နေသော ရေအယဉ်များလည်းပြတ်စဲခဲ့လေ၏။ မြွေသည် ရှင်ရသေ့ကို ရှိခိုးကန်တော့၍-

တပည့်တော်အဖို့ အရှင်ဘုရား၏ကျေးဇူးသည် ကြီးလှပါပေသည်။ တပည့်တော်ဟာ သူဆင်းရဲမဟုတ်ပါ။ ဤမည်သောအရပ်တွင် ကုဋေ ၄၀ သော ဥစ္စာများ မြှုပ်ထားတာ ရှိပါတယ်။ အရှင်ဘုရားမှာ ငွေကြေးကိစ္စနဲ့ ပတ်သက်လို့ အလို ရှိလာတဲ့အခါ ဤအလုံးစုံသောဥစ္စာများကို အရှင်ဘုရားအားပေးလှူနိုင်ပါသည်။ အရေးရှိလျှင် တပည့်တော်ညွှန်ကြားထားတဲ့နေရာကို ကြွလာပြီး ဒီဃလို့သာ ခေါ်လိုက်ပါဟု လျှောက်ထားလျက် ရှင်ရသေ့အား ဝတ်ချကန်တော့ နှုတ်ဆက်သွားလေ၏။

ကြွက်ကလည်း မြွေနည်းတူ မိမိ၌ရှိသော ကုဋေ ၃၀ သော ဥစ္စာကို အလိုရှိသောအခါ အားလုံး ပေးလှူ နိုင် ကြောင်း နှင့်

ပင့်ဘိတ်၍ မိမိကိုတွေ့ရန် ဤမည်သောအရပ်သို့လာခဲ့ပြီး ကြွက်ဟု ခေါ်လိုက်ပါမှ ထွက်လာခဲ့မည့်အကြောင်း လျှောက်ထား "ကာ ရှိခိုးကန်တော့ပြီး နှုတ်ဆက်သွားလေ၏။

ကျေးသားကလည်း မြွေ ကြွက်တို့နည်းတူ ကျေးဇူးဥပကာရ တင်ရှိကြောင်း လျှောက်ထား၍ တပည့်တော်မှာ ဥစ္စာပစ္စည်း တော့မရှိပါ။ သို့ရာတွင် သလေးနီဆန်စပါးကို အရှင်မြတ် အလို တော်ရှိပါမူ တပည့်တော်၏ ဆွေမျိုးဉာတကာ ကျေးသားများ နှင့် လှည်းအစီးပေါင်းမြောက်များစွာပြည့်သွားအောင် သလေး နီဆန်စပါးများကို ဆောင်ကြဉ်း ပေးနိုင်ပါတယ်ဘုရား။ တပည့် တော်ကိုတွေ့လိုက ဤမည်သောအရပ်သို့ ကြွလာပြီး ကျေးသား လို့ ခေါ်လိုက်ပါဟု ပင့်ဘိတ်ကာ နှုတ်ဆက်ဝတ်ချပြီး ထွက်သွား လေ၏။

အဆွေခင်ပွန်းကိုဖြစ်မှားရန်ကျေးဇူးရှင်ကိုကျေးဇူးကန်းရန် ကြံစည်နေသောမင်းသားလည်း လောကကျင့်ဝတ်အရ တစုံတခု သောစကားကိုမပြောဆိုဘဲထွက်သွားလျှင်မသင့်တော်၊ သူများ နည်းတူ ဘိတ်ကြားမှပင်ကောင်းမည်။ ဘိတ်ကြားသည့်အတိုင်း လိုက်လာခဲ့တဲ့အခါမှ သတ်ပစ်မည်ဟု ကြံစည်၍-

တပည့်တော် ရှင်ဘုရင်ဖြစ်တဲ့အခါ ကြွလာတော်မူခဲ့ပါ။ အရှင်ဘုရားကို ပစ္စည်း ၄ ပါးနှင့် တပည့်တော် စောင့်ရှောက်ပြုစု ပါမည်ဘုရားဟု လျှောက်ထားပြီး ဝတ်ချကာ နှုတ်ဆက် ထွက် သွားလေ၏။ မင်းသားသည် ဗာရာဏသီပြည်သို့ ပြန်ရောက်ပြီး မကြာမီပင် ရှင်ဘုရင်ဖြစ်ခဲ့လေ၏။

## ဘုရားအလောင်းရသေ့ ခရီးထွက်လာခြင်း

ဘုရားလောင်းရသေ့သည် မိမိကယ်တင်ခဲ့သော သတ္တဝါ ၄ ဦးအားစုံစမ်းရန်ထွက်ကြွလာခဲ့ရာ ပထမဆုံး မြွေထံသို့ဝင်၍

ဒီသဟု ခေါ်လိုက်လေ၏။မြွေလည်းတခွန်းထည်းခေါ်ရုံနှင့်ထွက်လာပြီး ရှင်ရသေ့ကိုရှိခိုးကာ—

အရှင်ဘုရား။ ကုဋေ ၄၀ ဥစ္စာတွေဆိုတာ သည်မှာ ပါဘဲ။ အားလုံးထုတ်ဆောင်ပြီး ယူသွားတော်မူပါဟု ပေးအပ်နှင်းလေ၏။ ဘုရားလောင်းလည်း ကောင်းပြီအရေးကိစ္စပေါ်ရင်သိရမှာပေါ့ဟုပြောပြီး မြွေကိုပြန်လွှတ်ကာ ကြွက်ထံသို့ လာခဲ့လေ၏။ ကြွက်လည်း ထိုနည်းဘူစွာ ရှိသမျှဥစ္စာကို ရှင်ရသေ့အား နှင်းအပ်ပေးလှူရာ ရှင်ရသေ့လည်း မြွေကို ပြောသည့်နည်းတူ ပြောဆိုပြီး ကျေးသားထံသို့လာခဲ့လေ၏။ ကျေးသားလည်း တခွန်းထည်းခေါ်လိုက်ရုံနှင့် သစ်ပင်ထက်မှ ဆင်းသက်လာပြီး ရှိခိုးဝတ်ချကာ-

ဘယ်လိုပါလဲအရှင်ဘုရား၊ တပည့်တော်ရဲ့ ဆွေမျိုး ကျေးသားတွေခေါ်ပြီး ဟိမဝန္တာကအလိုလိုပေါက်တဲ့ သလေးနီဆန်စပါးတွေသွားပြီးဆောင်ကြဉ်းရတော့မလား။ ဆောင်ကြဉ်းပါမည်။ အားမနာပါနှင့် ဘုရားဟု လျှောက် ထား လေ ၏။ ရှင်ရသေ့လည်း မြွေနှင့်ကြွက်ကိုပြောသည့်နည်းတူ အရေးကိစ္စရှိတဲ့အခါ သိရမှာပေါ့ဟုပြောပြီး ကျေးသားထံမှ ထွက်ခွာလာခဲ့၏။ ရှင်ရသေ့သည် ရှင်ဘုရင်ဖြစ်နေသူ မင်းသားကိုစုံစမ်းအံ့သောငှါ ဗာရာဏသီပြည်သို့လာခဲ့၍ ဘုရင်မင်းမြတ်၏ ဥယျာဉ်တော်ထဲ၌ ခေတ္တစခန်းချကာ နောက်တနေ့နံနက်တွင် ကြည်ညိုဘွယ်သောအသွင်ကိုဆောင်လျက် ဗာရာဏသီ မြို့တော်ထဲသို့ ဆွမ်းခံထွက်ခဲ့လေ၏။ ထိုအချိန်တွင် ရှင်ဘုရင်သည်မင်္ဂလာဆင်တော်ကိုစီး၍ အခြွေအရံများစွာနှင့် မြို့တော်ကိုလက်ျာရစ်လှည့်နေခိုက် ကြုံကြိုက်နေလေ၏။ ရှင်ဘုရင်သည် ဆင်တော်ထက်မှ

ဘုရားလောင်းရသေ့ကိုမြင်တော်မူရာ သည်ရသေ့ စဉ်းလဲဟာ ငါ့ဆီကိုစားသောက်နေရအောင်လာတာဘဲ။ ငါ့အပေါ်မှာ သူပြု ဘူးတဲ့ကျေးဇူးကိုလူအများအားပြောမပြသေးမီ ဒင်း၏ဦးခေါင်း ကိုဖြတ်ပစ်စေမှဘဲဟုကြံ၍ မိမိ၏ ငယ်ကျွန်တော် မင်းချင်း ယောကျ်ားများအားခေါ်ငင်ကာအမိန့်ပေးလိုက်လေ၏။

## အမိန့်ပေးပုံ

ဒီရသေ့စဉ်းလဲကို မြင်တယ်မဟုတ်လား။ ငါ့ဆီကို တစုံ တရာကို တောင်းခံရအောင် လာတာထင်တယ်။ ဒီရသေ့ စဉ်းလဲအား ငါ့ကိုတွေ့မြင်ခွင့်မပေးဘဲ ဘမ်းယူပြီး လက်ပြန် ကြိုးတုပ်နှောင်၍ မြို့ပြင်သုသာန်ကုန်းသို့ ဆောင်ကာ ဦးခေါင်း ကို ဖြတ်ပြီး ကိုယ်ကို တံကျင်လျှိုထားကြရမည်။ မြို့ပြင်သုသာန် ကုန်းသို့ ဆောင်သွားတဲ့အခါမှာ လမ်းလေးခွအဆုံရောက်တိုင်း ရောက်တိုင်း ရိုက်နှက်ကြရမည်။

မင်းချင်းယောကျ်ားတို့လည်း အထက်ပါ ဘုရင်မင်းအမိန့် တော်အတိုင်း အပြစ်မရှိသော ဘုရားလောင်းရသေ့ကို ဘမ်း ယူ၍ လက်ပြန်ကြိုး ဘုပ်နှောင်ကာ မြို့ပြင် သုသာန်ကုန်းသို့ ဆောင်ယူရင်း လမ်းလေးခွအဆုံ ရောက်တိုင်း ရောက်တိုင်း ရိုက်နှက်ပုတ်ခတ်ကြလေရာ ဘုရားလောင်း ရသေ့သည်လည်း မိဘတို့ကို တမ်းတကာ တစုံတရာ ငိုယို မြည်တမ်းခြင်း အမှုမျိုး မပြုဘဲ။

မြစ်ထဲမှာ မျောလာတဲ့ ထင်းတုံးကို ဆယ်ဘင်ခြင်းသည် မြတ်၏။ ကျေးဇူးမသိတတ်၊ အဆွေခင်ပွန်းကို ပြစ်မှားတတ်တဲ့

လူယုတ်မာကို ဆယ်တင်ခြင်းသည် မမြတ်ဟု ရှေးပညာရှိအချို့တို့ပြောဆိုတဲ့စကားဟာ တယ်မှန်တာဘဲဟုသာပြောဆိုလေ၏။

မင်းချင်းယောကျ်ားတို့သည် လမ်းလေးခွအဆုံ ရောက်တိုင်းရောက်တိုင်း ရှင်ရသေ့အား ရိုက်နှက်ကြ၏။ ရှင်ရသေ့လည်း ရိုက်နှက်တိုင်း ရိုက်နှက်တိုင်း တစုံတရာ ငိုယိုမြည်တမ်းခြင်း မပြုဘဲ အထက်ပါ အတိုင်းသာ ပြောဆို မြည်တမ်း နေလေ၏။ ရှင်ရသေ့၏ ထူးခြားသော စကားအတွက် ဉာဏ်ပညာနှင့်ပြည့်စုံသော မင်းချင်းယောကျ်ားအချို့က-

ဘယ်လိုလဲ ရှင်ရသေ့က ကျွန်ုပ်တို့ဘုရင်မင်းမြတ်အပေါ်မှာ တစုံတရာ ကျေးဇူးပြုဘူးတဲ့အချက်များ ရှိဘူးလို့လားဟု မေးမြန်းကြလေ၏။

ထိုအခါ ဘုရားလောင်း ရသေ့သည် ရှင်ဘုရင်အား မင်းသားဘဝက ကြီးစွာသော မြစ်ရေအယဉ်ထဲ၌ မျောလာစဉ် ဆယ်တင်ကယ်ဆယ်ခဲ့ရပုံ အလုံးစုံ ပြောပြ၍-

ငါသည်သာလျှင် ငါ့ဒုက္ခကို ဖန်တီးခဲ့တယ်။ ရှေးပညာရှိတွေပြောတဲ့စကားကို မလိုက်နာမိလို့ သည်လို ဒုက္ခတွေ့ရတာဘဲလို့ အောက်မေ့ပြီး ယခုလို ပြောဆို မြည်တမ်းခြင်းဖြစ်တယ် ပြောပြလေ၏။

ထိုစကားကို ကြားသောအခါ ရှင်ရသေ့အား ရိုက်နှက်ရာလမ်းလေးခွအဆုံသို့ ပွဲလမ်းတခုသဘွယ် လာရောက်ကြည့်ရှုနေကြသောမင်းမျိုး၊ ပုဏ္ဏားမျိုးစသော မြို့သူမြို့သား ပရိသတ်အများတို့သည်-

သည်လိုဆိုလျှင် သည်မင်းဟာ အဆွေခင်ပွန်းကောင်းကို ပြစ်မှားတာဘဲ။ မိမိအသက်ကို ကယ်ဆယ်ထားတဲ့ အသက်သခင် ကျေးဇူးရှင်ရဲ့ ကျေးဇူးကိုတောင် မသိဘူး။ ဒီလို ရှင်ဘုရင် မျိုးကို အမှီပြုနေလို့ ငါတို့ ပြည်သူ ပြည်သားတွေမှာ ဘယ် တော့ ကြီးပွားနိုင်မလဲ။ ဒီရှင်ဘုရင်ကို ဘမ်းကြလော့ဟု ဒေါသ အမျက် ခြောင်းခြောင်းထွက်၍ ချက်ခြင်း စည်းဝေးတိုင်ပင်ပြီး မြှား လှံ ကျောက် ဆောက်ပုတ် အရာရှိကုန်သော လက်နက် တို့ဖြင့် ရှင်ဘုရင်ကို ဆင်တော်ပေါ်၌ စီးနေရင်းပင် အသက် ကုန်အောင် ဝိုင်းညှပ်ရိုက်သတ် ပစ်ကြလေ၏။ ထိုသို့ ဝိုင်းညှပ် ရိုက်သတ်ကြပြီးနောက် ရှင်ဘုရင်၏အလောင်းကို ခြေနှစ်ချောင်း ကိုင်ပြီး ကျုံးအပြင်၌ ပစ်ချလိုက်ကြလေ၏။ ထိုနောက် ဘုရား လောင်းရသေ့အား လူဝတ် လဲစေကာ အဘိသိက် သွန်း၍ ရှင်ဘုရင် မြှောက်ကြသဖြင့် ဘုရားလောင်းရသေ့သည် ဗာရာ ဏသီပြည်၏ ဘုရင်မင်းမြတ် ဖြစ်သွားလေ၏။

## ရသေ့လူထွက် ရှင်ဘုရင်

ဘုရားလောင်း ရသေ့လူထွက်ဘုရင်မင်းမြတ်သည် မင်းကျင့် တရား ၁၀ ပါးနှင့်ညီစွာ တရားသဖြင့် တိုင်းပြည်ကို အုပ်စိုးခဲ့ လေ၏။ တနေ့သ၌ -မြွေ ကြွက် ကျေးသားတို့ကို ထပ်မံစုံစမ်း လိုသဖြင့် အခြွေအရံများစွာနှင့် ပထမဦးဆုံး မြွေထံသို့သွားကာ သတ်မှတ် သွန်ပြထားသော နေရာမှနေပြီး ဒီဃဟုခေါ်လိုက်ရာ မြွေသည် လာလတ်၍ ရှိခိုးဝတ်ချပြီး-

အဲသည် ဥစ္စာပစ္စည်းများဟာ အရှင့်အတွက် ဖြစ်ပါတယ် ယူတော်မူပါဟု မိမိ၏ ပစ္စည်း အားလုံးကို နှင်းအပ်လေ၏။

ရှင်ဘုရင်လည်း မြွေ၏ ကုဋေလေးဆယ်သော ဥစ္စာများကို အမတ်များအား အပ်နှံယူငင်စေပြီးနောက် ကြွက်ထံသို့သွားကာ ထိုနည်းဋင်း ကြွက်အပ်နှင်း၍ ကြွက်၏ ကုဋေသုံးဆယ်သော ဥစ္စာများကိုလည်း အမတ်များအား အပ်နှံယူငင်စေလျက်၊ ကျေးသားတံသို့ ထွက်လာခဲ့လေ၏။ ကျေးသားလည်း ချက်ခြင်း လာရောက် ဝတ်ချပြီး၊

ဘယ်လိုပါလဲအရှင်၊ သလေးနီ ဆန်စပါးများ ဆောင်ကြဉ်း ပေးရတော့မှာလားဟု ပန်ကြား မေးမြန်းလေရာ အလိုရှိတဲ့ အခါကျတော့ အဆောင်ကြဉ်းခိုင်းမှာပေါ့၊ ယခု ဆောင်ကြဉ်း ဘို့ မလိုသေးပါဘူးဟု အမိန့်တော် ရှိလိုက်လေ၏။

ထိုနောက်ဘုရင်မင်းမြတ်သည် မြွေကြွက်နှင့် ကျေးသား ၃ဦး စလုံးကို နန်းတော်သို့ ဆောင်ယူခဲ့၍ မြွေနေရန် ရွှေကျ ိကို ဆောက်ပေး၏၊ ကြွက်နေရန် ဖလ်လိုက်ဂူကို ဆောက်ပေး၏၊ ကျေးသားနေရန် ရွှေချိုင့်ကိုပြုလုပ်ပေး၏။ မြွေနှင့် ကျေးသားအ တွက် နေ့စဉ်ရွှေခွက်ငယ်နှင့်ထည့်ကာ ပျားရည်နှင့်ပေါက်ပေါက် တို့ကိုခကျွေးမွေး၏၊ ကြွက်အတွက် နေ့စဉ် မွှေးကြိုင် လှစွာသော သလေးဆန်ကိုကျွေးမွေး၏။ ဤသို့လျှင် ဘုရားလောင်းရသေ့ လူထွက် ရှင်ဘုရင်နှင့် မြွေ၊ကြွက်၊ကျေးသား ၄ဦး မိတ်ဆွေတို့သည် အသက်ထက်ဆုံး ငမ်းမြောက်ဝမ်းသာ ချစ်ကြည်စွာ နေထိုင် သွားကြလေသတည်း။

၂၆ သင့်လျော်သောအခါမှာ သူတော်ကောင်း တရားကို ကြားနာခြင်းဟာလဲ မင်္ဂလာတရား တပါးဖြစ်ပါတယ်၊

နိဗ္ဗာန်ရောက်ကြောင်း သူတော်ကောင်းတဲ့ရားကို ကြားနာရ ဘို့ဆိုတာဟာ အင်မတန်ခဲယဉ်းလှတဲ့ ကိစ္စကြီးတခုဖြစ်ပါတယ်။ သာသနာတော်ကြီးနဲ့ ကြုံကြိုက်တဲ့အခါမှာသာနာခွင့်ရနိုင်တယ်။ သာသနာပမှာနာလို့ မဖြစ်တော့ဘူး။ အဲဒါကြောင့် ဒုလ္လဘတရား ငါးပါးထဲမှာ သဒ္ဓမ္မသဝနံ အတိဒုလ္လဘံ၊သူတော်ကောင်းတရား ကြားနာရဘို့ဆိုတာဟာ အလွန်ခက်ခဲလှတဲ့ အခက်ခဲကြီးဘဲလို့ အလွန်ဆိုတဲ့စကားကိုထည့်ပြီး မြတ်စွာဘုရားသခင် ဟောကြား ထားတော်မူခဲ့ပါတယ်။

၂၇ သည်းခံခြင်းဟာလဲ မင်္ဂလာတပါးဖြစ်ပါတယ်။

သည်းခံခြင်းဆိုတာ အမျိုးမျိုးရှိပါတယ်။

၁ အချမ်း၊ အပူ၊ ဆာလောင်မွတ်သိပ်ခြင်း၊ မှက်၊ခြင်၊ယင်၊ လေ၊နေပူ၊မြွေ၊ပျား၊ကင်း၊သန်းတို့ရဲ့ ကိုက်ခဲခြင်း၊ အထွေထွေကို သည်းခံတာလဲ သည်းခံတာပါဘဲ။

၂ မိမိကိုယ်သဏ္ဍာန်မှာဖြစ်ပေါ်လာတဲ့ ဒုက္ခဝေဒနာတွေ ကို သည်းခံတာလဲ သည်းခံတာပါဘဲ။

၃ တဘက်သားကမိမိကိုမတရားသဖြင့်ပြောဆိုဖိစီး နှိပ်စက် ကြဲစည်တာတွေကို သည်းခံတာလဲ သည်းခံတာပါဘဲ။

အဲဒီလိုသည်းခံတာ ၃မျိုးရှိတဲ့အနက် တတိယသည်းခံတာ နဲ့ ပတ်သက်ပြီး နဲနဲပြောချင်ပါတယ်။

တဘက်သားက မိမိကိုမတရားပြောဆို ဖိစီး နှိပ်စက် ကြံစည် တာမျိုးနဲ့ ရင်ဆိုင်တွေ့ရတဲ့အခါ အာဃာတမထားမိဘို့နဲ့ ဒီလို

လုပ်တဲ့လူတွေကို စင်စင်ကြယ်ကြယ်ကြီး မေတ္တာပို့နိုင်ဘို့ အထူးသတိရှိရမယ်။ဒီလိုမတရားပြောဆို ဖိစီး နှိပ်စက်ကြံစည်တာကို ခံရတဲ့အခါ သည်းတော့ခံပါရဲ့ ဒီလူအပေါ်မှာ အာဃာတတွေရှိနေမယ့်ဆိုရင် သည်းခံတာ အစစ် မဟုတ်တော့ဘူး။ မနိုင်လို့ သည်းခံတာဖြစ်သွားမယ်။

သည်းခံတဲ့နေရာမှာ ဘုရားဒဏ္ဍနဂါးမင်း၊စမွေယျ နဂါးမင်းတို့ကိုအတုယူရမယ်။ ဒီနဂါးမင်းတွေဟာ သူတို့ကို နှိပ်စက်တဲ့အလမ္ပါယ်တွေကို သူတို့ရဲ့နှာခေါင်းလေနဲ့မှုတ်လိုက်ရင် ပြာကျသွားနိုင်တယ်။ဒါပေမဲ့အမိအဘတွေဟာ သားငယ် သမီးငယ် အမိုက် အ မဲ က လေး တွေ ကို သည်း ခံ သ လို န ဂါး မင်းတွေဟာ အလမ္ပါယ်တွေအပေါ်မှာသည်းခံတယ်။အဲဒါမျိုးမှ သည်းခံတာ အစစ်ဖြစ်တယ်။

ဒါပေမဲ့သည်းခံတယ်ဆိုတာဟာ ငုံ့ခံနေဘို့တော့ မဟုတ်ဘူး စိတ်မဆိုး အမျက်မထွက်ဘဲ တဖက်သား မှားနေတာကို လိမ်ဆယ်တာ မျိုး၊ လုပ် ကြံ တာ မျိုး မ ပါ စေ ဘဲ ဟုတ်သလောက် မှန်သလောက် ပွင့်ပွင့် သင်းလင်းအကျိုးနဲ့ အကြောင်းနဲ့ ပြသပြောဆိုရမယ်၊ဒီလိုမကောင်းတဲ့အပြောမျိုး အလုပ်မျိုး အကြံအစည်မျိုးကို နောက်ယပ်မလုပ်ကြအောင် ဖြောင်းဖြပြောဆိုရမယ်၊ မိမိအကျိုး ဆွေမျိုးဉာတကာရဲ့အကျိုး နိုင်ငံနဲ့ အမျိုးရဲ့အကျိုးတွေမနစ်နာရလေအောင် အကျိုးအကြောင်းကို အေးအေးလူလူနဲ့ ပြသပြောဆိုကြရမည်။ ဒီလိုမပြောဘဲ ငြိမ်နေတာမျိုး ကျတော့ သည်းခံတယ်လို့ မဆိုနိုင်တဲ့အပြင် ဉာတကာနဲ့ သင်္ဂဟော မိမိရဲ့ဆွေမျိုးဉာတကာကိုစောင့်ရှောက်ရမယ်၊ ထောက်ပံ့ ကူညီရမယ်ဆိုတဲ့ မင်္ဂလာတရားတောင် ပျက်ကွက်နေရာကျပါတယ်။

၂၈ သူတော်ကောင်းတို့ ဆုံးမအပ်သော စကားကို နာယူလွယ်ခြင်းတာလဲ မင်္ဂလာတပါးပင်ဖြစ်ပါတယ်။

ဆုံးမတာကိုနာခံရမယ်ဆိုပေမဲ့ ဆုံးမတဲ့လူကလဲ တဖက်သားနားထောင်အောင်ဆုံးမသင့်တယ်၊အဲဒီတော့ တဖက်သားနားထောင်ချင်အောင်ဆုံးမတဲ့နည်းကို ကျွန်တော် ဖော်ပြချင်ပါတယ်။

## ဆုံးမနည်းငါးနည်း

၁ မသင့်မလျော်မလျောက်ပတ်တဲ့အခါမှာ မဆုံးမဘဲ သင့်လျော်လျောက်ပတ်တဲ့အခါမှာဆုံးမရမယ်။

၂ မဟုတ်မမှန်တဲ့ စကားကို ပယ်ရှားပြီး ဟုတ်မှန်တဲ့ စကားနဲ့ဆုံးမရမယ်။

၃ ကြမ်းတမ်း ခက်ထန် နားမခံနိုင်ဘွယ်ဖြစ်တဲ့ စကားကို ပယ်ရှားပြီး သိမ်မွေ့နူးညံ့တဲ့စကားနဲ့ဆုံးမရမယ်။

၄ အကျိုးမရှိတဲ့စကားကိုပယ်ရှားပြီး အကျိုးရှိတဲ့ စကားနဲ့ဆုံးမရမယ်။

၅ အမျက်ဒေါသမပါစေဘဲ မေတ္တာနဲ့ဆုံးမရမယ်။

၂၉ ရဟန်းသူမြတ်တို့ကို ဖူးမြင်ခြင်းဟာလဲ မင်္ဂလာတပါးဖြစ်ပါတယ်။

ကိလေသာမီး ငြိမ်းပြီး ငြိမ်းဆဲ ငြိမ်းလတံ့ ဖြစ်နေတဲ့ရဟန်းတော်တွေကိုဖူးမြင်ခြင်း၊တရားတော်ကိုနာယူခြင်း။ ခစား

ဆည်းကပ်ခြင်းဆိုတာတွေဟာ အလွန်ကျေးဇူးများလှတဲ့အတွက် ဗုဒ္ဓဘာသာဝင်မှန်ရင် မလုပ်မနေအပ်တဲ့ အလုပ် ဝတ္တရားတွေ ဖြစ်ပါတယ်။

သီလရှိတဲ့ရဟန်းတော်မြတ်တွေ အိမ်ကိုကြွလာပြန်ရင်လဲ-

က ကြည်လင်တဲ့စိတ်ဖြစ်ရမယ်။

ခ ခရီးဦးကြိုပြုပြီး နေရာပေးရမယ်။

ဂ ဝန်တိုတဲ့စိတ်မထိမဲ့ မြင်လုပ်ချင်တဲ့စိတ်တွေကိုပယ်ဖျက်ရမယ်။

ဃ ဆွမ်းစတဲ့လှူဘွယ်ဝတ္ထုတွေကိုလှူဒါန်းရမယ်။

င တရား စကား ကို ကြား နာ ရမယ်။ မေးမြန်းရမယ်။ ဆွေးနွေးရမယ်။

အဲဒီလိုလုပ်တဲ့ပုဂ္ဂိုလ်ဟာ-

က နတ်ပြည်ကိုရောက်နိုင်တယ်။

ခ မြင့်တဲ့အမျိုးမှာ ဖြစ်နိုင်တယ်။

ဂ ဘုန်းတန်ခိုးကြီးနိုင်တယ်။

ဃ ကြီးကျယ်တဲ့စည်းစိမ်နဲ့ ပြည့်စုံနိုင်တယ်။

င ပညာကြီးနိုင်တယ်လို့ ပဉ္စအင်္ဂုတ္တိုရ်မှာ မြတ်စွာဘုရား အတိအလင်း ဟောကြားထားပါတယ်။

၃၀ သင့်တော်သောအခါ တရားစကားကို ဆွေးနွေး မေးမြန်းခြင်းဟာလဲ မင်္ဂလာတပါးဖြစ်ပါတယ်။

လောကီအလုပ်ကိုသာ လုပ်ရမယ်လို့ မဆိုလိုပါ။ နောင် တမလွန်ဘဝတွေရှိနေသေးတဲ့အတွက် ဒီဘဝတွေကလွတ်မြောက်ရေးလုပ်ငန်းတွေကိုလဲ လုပ်ပေးရမယ်။

သင့်တော်တဲ့အခါမှာ တရားဆွေးနွေးတာဟာ ဘဝ လွတ်မြောက်ရေးအတွက် အရေးကြီးတာကြောင့် သင့်တော် လျောက်ပတ်တဲ့အခါမှာ တရားစကားဆွေးနွေးနိုင်ကြပါစေ။

၃၁ ခြိုးခြံစွာကျင့်ခြင်းဟာလဲ မင်္ဂလာတပါးဖြစ်ပါတယ်။

ဒီခြိုးခြံစွာကျင့်ခြင်းဆိုတဲ့ မင်္ဂလာမှာ

၁ ဣန္ဒြေကိုစောင့်ခြင်းနဲ့။

၂ အပျင်းကို ပူပန်စေခြင်းဆိုတဲ့ အဓိကအင်္ဂါရပ်ကြီး ၂ပါး ရှိပါတယ်။

ဣန္ဒြေစောင့်ခြင်းဆိုတာကတော့ တခြားမဟုတ်ပါဘူး။ မျက်စိကကြည့်ချင်တာတွေကို တောင်ကြည့် မြောက်ကြည့်နဲ့ ရှောက်မကြည့်မိအောင် နားက နားထောင်ချင်တာတွေကို တောင်နားထောင် မြောက်နားထောင်နဲ့ ရှောက်ပြီး နားမထောင်မိအောင် နှာ၊ လျှာ၊ ကိုယ်တွေကလဲ ဒီလိုဘဲ ကိုယ်ကြိုက်ရာအာရုံတွေနောက် မလိုက်မိအောင် သတိနဲ့ ထိန်းထားတာဟာ ဣန္ဒြေ စောင့်ခြင်းဘဲဖြစ်ပါတယ်။

ဒီမင်္ဂလာတရားနဲ့ပြည့်စုံချင်တဲ့လူဟာ ဒီလိုကျင့်စောင့်ခြင်းမျိုးရှိရမယ်။

၃၂ မြတ်တဲ့အကျင့်ကို ကျင့်ခြင်းဟာလဲ မင်္ဂလာတပါးဖြစ်ပါတယ်။

မြတ်တဲ့အကျင့်ဆိုတာဘာပါလဲ၊မြတ်တဲ့အကျင့်ဆိုတာ တခြားဟာမဟုတ်ပါဘူး။

၁ အလှူပေးခြင်း။

၂ အမှုကြီးငယ်ကိုဆောင်ရွက်ခြင်း။

၃ ငါးပါးသီလမြဲခြင်း။

၄ မေတ္တာ၊ချစ်ခင်ခြင်း၊ကရုဏာ ကိုယ့်ထက်နိမ့်ကျသူတို့ အပေါ်မှာ သနားခြင်း၊မုဒိတာ၊ကိုယ့်ထက် မြင့်မြတ်တဲ့ လူတွေအပေါ်မှာဝမ်းမြောက်ခြင်း၊ဥပေက္ခာ၊မိမိကိုဆန့်ကျင်တဲ့လူတွေအပေါ်မှာလဲ အမျက်မထား၊မိမိအကျိုးစီးပွားကိုရွက်ဆောင်သည့်လူတွေအပေါ်မှာလဲ အားရဝမ်းသာမရှိ၊ စိတ်ကို တည့်မတ်စွာထားခြင်းဆိုတဲ့ ဗြဟ္မစိုရ်တရားလေးပါးကိုပွားများခြင်း။

၅ မေထုန်မှရှောင်ကြဉ်ခြင်း။

၆ မိမိမယားဖြင့် ရောင့်ရဲခြင်း။

၇ ဝီရိယကိုအားထုတ်ခြင်း။

၈ ဥပုသ်သုံးခြင်း။

၉ အရိယမဂ်။

၁၀ ရဟန်းတရားတွေဘဲဖြစ်ပါတယ်။

၃၃  အရိယာသူတော်ကောင်းတို့ရဲ့  သစ္စာလေးပါးတရားကို သိမြင်ခြင်း။

၃၄  အရဟတ္တဖိုလ် ချမ်းသာကိုမျက်မှောက်ပြုခြင်း။

၃၅  လောကဓံရှင်ဆိုင်ရတဲ့အခါမတုန်မလှုပ်ခြင်း။

၃၆  စိုးရိမ်ကြောင့်ကြမရှိခြင်း။

၃၇  ကိလေသာရမ္မက်ဆိုတဲ့ မြူတွေမရှိခြင်း။

၃၈  လောဘ၊ ဒေါသ၊ မောဟဘေးတွေကင်းလွတ်ခြင်းဆိုတဲ့ တရားခြောက်ပါးဟာလဲ မင်္ဂလာတွေဖြစ်ပါတယ်။

၃၈-ဖြာမင်္ဂလာနဲ့ ပတ်သက်ပြီး ကျွန်တော်တတ်သမျှမှတ်သမျှကို ဖေါ်ပြပြီးပါပြီ။ ထိုတရားများအားထုတ်ကျင့်သုံးခြင်းဖြင့် ကိုယ်စိတ်နှစ်ဖြာ အောင်ခြင်းမင်္ဂလာနဲ့ပြည့်စုံ၍ ကြီးတိုင်းအောင် ဆောင်တိုင်းမြောက်ကြပါစေသတည်း။

ပြီးပါပြီ။

ဝန်ကြီးချုပ် ဦးနုဟောပြောသော ဗုဒ္ဓစာပေဖြန့်ချိရေးဌာန

ဦးသိန်း (အံတော်ထိမ်းအဖွဲ့) ကမ္ဘာ့ဘုရားလမ်း-ရန်ကုန်မြို့